# သတ်က်လီးဒ်

## မျက်ကန်းနောက်လိုက်မှုနှင့်

## အစ္စလာမ်သည် မည်သို့ပတ်သက်သနည်း

**ပြုစုသူ**

**ဟာဖိဇ်ဂျလာလုဒ္ဒီးန် (ကာစိမီ)**

**ဘာသာပြန်သူ**

**ရှိုင်းခ်မွဖ်သီဖိုင်စွာလ် (ကာစိမီ)**

အကြောင်းအရာများကို အောက်ပါအတိုင်း စဉ်ထားပါသည်။

၁။ အမှာစာ

၂။ စကားချီး

၃။ ကုရ်အာန်၊ ဟဒီးဆ်နှင့် ဆွဟာဗဟ်သာဝကကြီးများ၏ မိန့်ဆိုချက်များ ရှုထောင့်တွင်။

ဤခေါင်းစဉ်အောင်တွင် အခွဲအခက်များ မြားစွာရှိသည်။

၄။ အိမာမ်ကြီးလေးပါးနှင့် အွမ္မသ်၏ အခြားပညာရှင်များ၏ ရပ်တည်ချက်။

ဤခေါင်းစဉ်အောင်တွင် အိမာမ်တစ်ပါးချင်းစီ၏ အဆိုများကို တင်ပြထားသည်။

ပမာအားဖြင့် အိမာမ်အဗူဟနီဖဟ်၊ အိမာမ်မာလစ်က်၊ အိမာမ်ရှာဖွေအီ၊ အိမာမ်အဟ်မဒ်ဗင်န်ဟမ်ဗလ်တို့၏ အဆိုများ၊ သတ်က်လီးဒ်သည် ဒုက္ခတစ်ခု၊ မုကလ္လိဒ်သည် ဝလီမဖြစ်နိုင်၊ ရှိုင်းခ်အဗ်ဒုလ်ကာဒိရ်ဂျီလာနီ၏ ဖဿဝါ၊ ရှရီးဒ်အဟ်မဒ်ဂန်ဂိုဟီ၏ နှုတ်ပြော၊ မော်လာနာအရှ်ရဖ်အလီထာနဝီ၏ ကြေကွဲမှု၊ သတ်က်လီးဒ်နှင့် မန်သွေစ်က် (ယုတ္တိဗေဒ)၊ ကိယားစ်လမ်းကြောင်းများ၏ စည်းဘောင်ကျော်မှု၊ အိဂ်ျသိဟားဒ်နှင့် သတ်က်လီးဒ်၊ မုဟဒ္ဒိစ်တွေက မုကလ္လိဒ်တွေလား၊ သတ်က်လီးဒ်၏ အမျိုးအစားများ၊ သတ်က်လီးဒ်ရှခ်ဆွီးနှင့် အတွေးအခေါ် လမ်းစဉ်ဝင်များ၊ မုဟဒ္ဒိစ်တို့၏ ဆွဟီးဟ် ဒွအီးဖ် အမိန့်ချမှတ်မှုတို့ကို လက်ခံခြင်းသည် သတ်က်လီးဒ်မြောက်ပါသလား၊ သာသနာမှာ နဗီမှလွဲ၍ အခြားသူအမြင်ကို လက်ခံခြင်း။

***■ ဟဒီးဆ်များကို ထုတ်နုတ်တင်ပြသူ- အဗူမုဟမ္မဒ်အဗ်ဒုလ္လာဟ်အခ်သရ်***

***■ စီစစ်သူ- မောင်လာနာ မုဟမ္မဒ်အရ်ရှဒ်ကမားလ်***

***■ ပြုစုသူ- ဟာဖွေဇ်ဂျလာလုဒ္ဒီးန် ကာစိမီ (ဖာဇေလေ့ဒေဃိုဗန်ဒ်)***

***■ ဘာသာပြန်ဆိုသူ- မွဖ်သီဖိုင်စွာလ်ကာစိမီ တန့်ယန်း (ဖာဇေလေ့ဒေဃိုဗန်ဒ်)***

اِتَّبِعُوۡا مَاۤ اُنۡزِلَ اِلَيۡكُمۡ مِّنۡ رَّبِّكُمۡ وَلَا تَتَّبِعُوۡا مِنۡ دُوۡنِهٖۤ اَوۡلِيَآءَ ‌ؕ قَلِيۡلًا مَّا تَذَكَّرُوۡنَ ۝٣

(၃) အသင်တို့သည် အသင်တို့အား ဖန်ဆင်းမွေးမြူ တော်မူသော အရှင်မြတ်ထံတော်မှ အသင်တို့ထံသို့ ချပေးခြင်းခံရသော အရာကိုသာ လိုက်နာကြပါ။ ၎င်းပြင် အသင်တို့သည် အရှင်မြတ်မှလွဲ၍ (အခြား) မိတ်ဆွေများ၏ နောက်သို့ မလိုက်ကြနှင့်။ အသင်တို့သည် ဆုံးမ ဩဝါဒများကို အနည်းငယ်သာ နာခံကြသည်။

# ဒအ်ဝဟ်သောင်ဟီးဒ်(ပါကစ်တန်) စာစောင်၏ ဒုဥက္ကဋ္ဌ ဒေါက်တာ ဟာဖွေဇ်မုဟမ္မဒ် ရှဟ်ဗားဇ် ဟစန်၏

## အမှာစာ

ရှရီအသ်၏ ပညတ်ချက်များကို ဝဟီဖြင့် သိရပါသည်။ ဝဟီဆိုသည်မှာ ကုရ်အာန်နှင့် ဟဒီးဆ်ကို ပြောပါသည်။ လူသားတို့၏ လုပ်ရပ်များသည် ဝဟီနှင့် မဆန့်ကျင်မှ အလ္လာဟ်အရှင်မြတ်က လက်ခံတော်မူပေသည်။ အကြောင်းမှာ ဝဟီနှင့် ဆန့်ကျင်သော လုပ်ရပ်ကုသိုလ်များသည် အချည်းနှီးပင် ဖြစ်သည်။ အလ္လာဟ် အရှင်မြတ်က မိန့်တော်မူသည်။

يَآيُّهَا الَّذِيْنَ  اٰمَنُوْٓا اَطِيْعُوا اللّٰهَ وَ اَطِيْعُوا الرَّسُوْلَ وَ لَا تُبْطِلُوْٓا اَعْمَالَكُمْ ﴿٣٣﴾

(၃၃) အို- အီမာန်ယုံကြည်သူ အပေါင်းတို့၊ အသင်တို့သည် အလ္လာဟ် အရှင်မြတ်၏ အမိန့်တော်ကို လိုက်နာကြပါ။ ထို့ပြင် အသင်တို့သည် တမန်တော်၏ အမိန့်တော်ကိုလည်း လိုက်နာကြပါ။ ထို့ပြင် အသင်တို့သည် အသင်တို့၏ လုပ်ရပ်များကို အလဟဿ မဖြစ်စေကြနှင့်။

ဒါပေမဲ့ တချို့လူတွေဟာ သာသနာပေါ် ကျင့်သုံးဖို့ သတ်က်လီးဒ်၏ လမ်းကို ရွေးချယ်ခဲ့ကြသည်။ ဒီကိစ္စမှာ သူတို့ဟာ အစွဲကို လက်ကိုင်ဆွဲလိုက်ကြသည်။

ကုရ်အာန်နဲ့ ဟဒီးဆ်တွေမှာ တလွဲ အဓိပ္ပာယ်ကောက်ယူပြီး မိမိတို့၏ ဖိကဟ်လမ်းစဉ် ကောင်းမွန်ကြောင်း အတည်ပြုဖို့ ကြိုးစားကြ

သည်။ အိမာမ် အိဗ်နုဟာဇ်မ် စပိန်နိုင်ငံသား(ဟိဂျ်ရီ ၄၅၆ ကွယ်လွန်) က ဤသို့ ရေးသည်။ "သတ်က်လီးဒ်သည် ဟရာမ်ဖြစ်သည်။ တမန်တော်မြတ်(صلى الله عليه وسلم)က လွဲ၍ အခြားသူ၏ အမြင်ကို အထောက်အထားမဲ့ လက်ခံကျင့်သုံးခြင်းသည် ဘယ်သူ့အတွက်မှ မပိုင်ပေ။ အကြောင်းမှာ အလ္လာဟ် အရှင်မြတ်က မိန့်တော်မူထားသည်။ အိုလူတို့၊ အသင်တို့ အရှင်ဘက်မှ ချပေးခြင်းခံရသည့် အရာနောက်ကို လိုက်ကြကုန်။ မိမိအရှင်မြတ်ကို စွန့်လွှတ်၍ အခြားခေါင်းဆောင်များ နောက်ကို မလိုက်ကြနှင့်။ (စူရဟ် အအ်ရားဖ်၊ ၃)

နောက်တစ်နေရာမှာ အလ္လာဟ်က မိန့်တော်မူတယ်။ အလ္လာ့ဟ်ဘက်မှ ချပေးသည့် အမိန့်များကို လိုက်နာပါဟု သူတို့ကို ပြောခြင်းခံရသောအခါ ၎င်းတို့က ကျွန်ုပ်တို့သည် မိမိတို့ ဘိုးဘေးများ လုပ်ခဲ့ကြသည့် အရာများ နောက်ကိုသာ လိုက်ကြမည်ဟု ပြောကြကုန်သည်။ (စူရဟ်ဗကရဟ်၊ ၁၇၀)

အလ္လာဟ်နှင့် အလ္လာ့ဟ်တမန်တော်ကလွဲ၍ မည်သူ့ နောက်ကိုမှ မလိုက်ကြသောသူများကို ချီးကြူးရင်း အလ္လာဟ်အရှင်မြတ်က မိန့်တော်မူသည်။ "အို တမန်တော်၊ ငါအရှင်မြတ်၏ အကြင်ကျေးကျွန်များကို သတင်းကောင်း ပါးလိုက်ပါ။ ၎င်းတို့သည် စကားနားထောင်ကြသည်။ ထို့နောက် ယင်းထဲမှ အကောင်းဆုံးကို လိုက်နာကျင့်သုံးကြသည်။ ၎င်းတို့ကိုသာလျှင် အလ္လာဟ် အရှင်မြတ်က လမ်းပြတော်မူသည်။ ဤသူများသာလျှင် အသိဉာဏ်ရှိသူများ ဖြစ်

ကြသည်။ (စူရဟ်ဇုမရ်၊ ၁၈)

နောက်တစ်နေရာမှာ မိန့်တော်မူထားသည်။ အကယ်၍ ကိစ္စတစ်ခုခုတွင် အသင်တို့အကြား အငြင်းပွားလာလျှင် အလ္လာဟ်နှင့် အလ္လာ့ဟ် တမန်တော်ဘက်သို့ လှည့်ကြကုန်။ အကယ်၍ သင်တို့ အလ္လာဟ်နှင့် နောင်တမလွန်ကို ယုံကြည်ကြသည်ဆိုလျှင်။ (စူရဟ် နိစားအ်၊ ၅၉)

ကိစ္စရပ်တစ်ခုခုတွင် အကွဲအလွဲ၊ အငြင်းပွားမှု ဖြစ်လာလျှင် အလ္လာဟ်အရှင်မြတ်က မုအ်မင်န်တွေကို အလ္လာဟ့် ကျမ်းဂန်နှင့် တမန်တော့်စွန္နဟ်ကလွဲ၍ အခြားမည်သည့် အဆို၊ ကျင့်သုံးမှုဘက်ကိုမှ လှည့်ခွင့်မပြုထားပေ။ လူတို့သည် အလ္လာဟ်နှင့် အလ္လာ့ဟ် တမန်တော်ကို စွန့်၍ မိမိတို့ထဲမှ ပညာရှင်တစ်ဦးဦး သို့မဟုတ် အိမာမ်တစ်ပါးပါး နောက်ကိုလိုက်ခြင်း၊ သို့မဟုတ် ရှေးပုဂ္ဂိုလ်တွေထဲက တစ်ဦးဦးရဲ့အဆို၊ အမြင်ကို မိမိကျင့်သုံးမှု၏ အခြေခံ အဖြစ် သတ်မှတ်ခြင်းကို လုံး၀ ရှောင်ကြဉ်ရမည့် အကြောင်း စွဟာဗဟ်၊ သာဗိအီးန်၊ သဗအ်သာဗိအီးန်တို့ အားလုံး အမြဲ ညီညွတ်ခဲ့ကြသည်။ အကြင်သူဟာ အိမာမ် အဗူဟနီဖဟ်၊ အိမာမ်မာလိစ်က်၊ အိမာမ် ရှာဖွေအီ၊ အိမာမ်အဟ်မဒ်တို့၏ အဆိုတွေ၊ ဖသဝါတွေကို အထောက်အထား အဖြစ်လက်ခံပြီး ၎င်းတို့နောက်ကိုသာ လိုက်မည်၊ သူတို့ကလွဲ၍ အခြားမည်သူ၏ အဆို၊ ဖသဝါတွေကိုမှ အရေးမပေး၊ လက်မခံ၊ ကုရ်အာန် ဟဒီးဆ်ပေါ်မှာလည်း ထိုအိမာမ်ကြီးများ

အနက် တစ်ဦးဦး၏ အဆိုနှင့် မကိုက်ညီသမျှကာလပတ်လုံး ကျင့်သုံးခြင်း မရှိပါက ထိုသူသည် မုချကေန် အိဂျ်မာအေ့အွမ္မသ် (အွမ္မသ်တစ်ခုလုံးနှင့်) ဆန့်ကျင်နေပြီဖြစ်ကြောင်း မှတ်ထားလိုက်သင့်ပြီ။ သူသည် အစပိုင်း ခေတ်သုံးခေတ်မှာ မိမိ နောက်လိုက်မှု ပြုရမယ့် ရှေ့ဆောင်တစ်ဦးဦးကို ရှာမတွေ့ဘူးဆိုရင် သူသည် မွတ်စ်လင်မ်တို့၏ လမ်းစဉ်မှ လွဲပြီး အခြားလမ်းကို ရွေးချယ်နေပြီဖြစ်ကြောင်း ကောင်းစွာ မှတ်ထားလိုက်ရမည်။ ဤအခြေအနေမျိုးမှ ကျွန်တော်တို့ အလ္လာ့ဟ်ထံ ခိုလှုံပါ၏။ ဖုကဟာနှင့် မုဂျ်သဟိဒ် အိမာမ်တွေကိုယ်တိုင်က သူတို့ကိုဖြစ်စေ၊ အခြား တစ်ဦးတစ်ယောက်ကို ဖြစ်စေ သတ်မှတ်ချက်ထားပြီး သတ်က်လီးဒ်လုပ်တာကို တားမြစ်ခဲ့ကြသည်။ သူတို့နောက်ကို လူတွေ မျက်စိပိတ် လိုက်ခြင်းကို လုံးဝ ဆန့်ကျင်ခဲ့ကြသည်။ ပြီးတော့ ဟဇရသ်အုမရ်၊ ဟဇရသ်အလီ၊ ဟဇရသ် အဗ်ဒုလ္လာဟ် ဗင်န်မတ်စ်အူးဒ်၊ ဟဇရသ် အဗ်ဒုလ္လာဟ်ဗင်န်အဗ္ဗားစ်၊ ဟဇရသ်အာအေရှာ(ရသွေ့)တို့ကို စွန့်ပြီး နောက်မှ ပေါ်ပေါက်လာကြသည့် ဖုကဟာတွေနောက်ကို ဘာအထောက်အထားနဲ့ သတ်က်လီးဒ်လုပ်တာလဲ ဆိုတာကို စဉ်းစားလို့မရဘူး။ အကယ်၍ သတ်က်လီးဒ်သာ လုပ်ပိုင်တယ်ဆိုရင် ဒုတိယဟာစ်ဂျ်ရီ၊ တတိယ ဟာစ်ဂျ်ရီက ပညာရှင်တွေထက် စွဟာဗဟ်ကြီးတွေကို သတ်က်လီးဒ် လုပ်တာက ပိုထိုက်တန်တာပေါ့။

(ရှာဟ်ဝလိယုလ္လာဟ် ရေးသားသော အိစ်က်ဒုလ်ဂျီးဒ်ကျမ်း၊ စာ ၇၉-

၈၁)

သတ်က်လီးဒ်နဲ့ ပတ်သက်ပြီး အိဗ်နုဟာဇ်မ် (رحمة الله عليه) ၏ အမြင်ကို ရှာဟ်ဝလိယုလ္လာဟ် (رحمة الله عليه)က အမျိုးမျိုး ကိုက်ညီအောင် ဖွင့်ဆိုသည်။ အိဗ်နုဟာဇ်မ် ပြောဆိုထားသည့် သတ်က်လီးဒ် ဟရာမ်ဖြစ်ခြင်းသည် လူသုံးမျိုးအတွက် ဖြစ်နိုင်ကြောင်း ရှာဟ်ဝလိယုလ္လာဟ် (رحمة الله عليه) က ရေးပါသည်။

၁။ ပထမတစ်ယောက်ကတော့ မတ်စ်အလဟ်တစ်ခုမှာပဲ ဖြစ်ဖြစ် အိဂ်ျသိဟားဒ်လုပ်နိုင်စွမ်းတဲ့ ပုဂ္ဂိုလ်ဖြစ်တယ်။ တမန်တော်မြတ် (صلى الله عليه وسلم)က မည်သည့်ကိစ္စကို မိန့်ခဲ့ကြောင်း၊ သို့မဟုတ် တားမြစ်ခဲ့ကြောင်း သူ ကောင်းကောင်းသိသည်။ ပြီးတော့ ဒီမတ်စ် အလဟ်နဲ့ ပတ်သက်ပြီး ရှိတဲ့ ဟဒီးဆ်ကလည်း မန်စူးခ် (အမိန့် ပလပ်သွားတဲ့) ဟဒီးဆ် မဟုတ်ကြောင်းကို သူသိသည်။ ပြီးတော့ ဒီမတ်စ်အလဟ်နဲ့ ပတ်သက်ပြီး ရှိသမျှ ဟဒီးဆ်တွေရော၊ ကိုက်ညီတဲ့ အဆိုတွေရော၊ ဆန့်ကျင်တဲ့ အဆိုတွေရော အားလုံးကို သူ လှန်လှောရှာဖွေပြီးပြီ။ သို့ ရှာဖွေသော်လည်း ထိုဟဒီးဆ် မန်စူးခ် ဖြစ်ကြောင်း အထောက်အထား တစ်စုံတစ်ရာမှ သူမသိရပေ။ ဒါမှ မဟုတ် ပညာရှင်ကြီးများ တစ်စုက ထိုဟဒီးဆ်ဘက်ကို ယိမ်းကြတာကို သူမြင်ရတယ်။ ထိုပညာရှင်တို့နဲ့ ဆန့်ကျင်ဘက်အုပ်စုက မိမိ တို့ရဲ့ ကိယားစ်၊ အိဂ်ျသိဟားဒ်တွေကို အထောက်အထား အဖြစ် အကာအကွယ်ယူပြီး ထိုဟဒီးဆ်ကို ပယ်ချချင်ကြတယ် ဆိုရင် ဒီလို

အခါမျိုးမှာ ဟဒီးဆ်ကို ဆန့်ကျင်တာဟာ အတွင်းပိုင်းမှာ နိဖားက် အရေခြုံမှုနဲ့ အပြင်ပိုင်းမှာ ဉာဏ်တုံးမှုတွေ ရှိနေလို့ပဲလို့ ပြောရပါ တော့မယ်။ ရှိုင်းခ် အိဇ္ဇုဒ္ဒီးန်အိဗ်နု အဗ်ဒုစ္စလာမ်(رحمة الله عليه)က ဒီဘက်ကိုပဲ ရည်ညွှန်းခဲ့တာဖြစ်တယ်။ သူက ရေးတယ်။ သိပ်အံ့သြ စရာ ကောင်းတဲ့ ကိစ္စတစ်ခုကို ပြောရဦးမယ်။ အချို့ သတ်က်လီးဒ် လုပ်တဲ့ ပညာရှင်တွေဟာ မတ်စ်အလဟ် တစ်ခုမှာ မိမိတို့ရဲ့ အိမာမ် ရဲ့ ရပ်တည်ချက်၊ အမြင်အား နည်းတာကို သိတယ်။ ဘယ်လောက် အားနည်းလဲဆိုရင် ဘယ်လိုမှ သအ်ဝီးလ် (အခြားပုံစံ ဖွင့်ဆိုခြင်း) တောင် လုပ်လို့မရဘူး။ ဒါပေမဲ့ ဒါတွေအားလုံးကို သိသိကြီးနဲ့ နားလည်ပြီးတော့လည်း အဲဒီအိမာမ်ရဲ့ သတ်က်လီးဒ်ပဲ လုပ်တယ်။ အခြား အိမာမ်၊ မုဂ်ျသဟိဒ်ရဲ့ မတ်စ်အလဟ်ပေါ်မှာ ကုရ်အာန်၊ ဟဒီးဆ်နဲ့ မှန်ကန်တဲ့ကိယားစ်က အရှင်းကြီး ပြဆိုနေတာတောင် သူဟာ မိမိ သတ်မှတ်ထားတဲ့ အိမာမ်ရဲ့ လမ်းစဉ်ပေါ်မှာပဲ တောင့် တောင့်ကြီး ပေပြီး နေတဲ့အတွက် အခြား အိမာမ်တွေရဲ့ အဆိုတွေ ကို စွန့်လွှတ်ပစ်လိုက်တယ်။ ဒီလောက်နဲ့ ရပ်တန့်သွားသလားဆို တော့ မဟုတ်ဘူး။ မိမိအိမာမ်ရဲ့ လမ်းစဉ်ဘက်ကနေ ဘယ်လောက် ထိ ရှေ့နေ လိုက်သလဲဆိုရင် ကုရ်အာန်၊ စွန္နဟ်ရဲ့ အပေါ်ယံ ကြည့်ရုံ နဲ့တင် ထင်ရှားနေတဲ့ အရာတွေကိုပါ မရမက တခြား အဓိပ္ပာယ် ဆွဲ ယူဖို့လည်း ဝန်မလေးကြဘူး။ မိမိအိမာမ်ရဲ့ လမ်းစဉ်ကို မှန်ကြောင်း ပြနိုင်ရန်အတွက် ဝေးလံတဲ့ အဓိပ္ပာယ်တွေကို မရမက လိုက်ဆွဲ

ယူကြသေးတယ်။

အစ္စလာမ်ရဲ့ ကနဦးကာလမှာ လူတွေဟာ သီးသန့် လမ်းစဉ်၊ မတ်ဇ်ဟဗ်တစ်ခု မသတ်မှတ်ဘဲ ကျပန်း သဘောမျိုးနဲ့ မိမိတို့မသိတာကို ပညာရှင်တွေကို မေးလေ့ရှိတယ်။ သူတို့မသိတာကို ကျွမ်းကျင်တဲ့ ပညာရှင်တွေဆီ ချဉ်းကပ်ပြီး မေးလေ့ရှိတယ်။ အဲဒီလိုမေးတဲ့ နေရာမှာ ထိုပညာရှင်က ဟနဖီလား၊ ရှာဖွေအီလားဆိုတာ ဘာမှ စုံစမ်းစိစစ်ခြင်း မရှိကြဘူး။ ပညာရှင်တွေကလည်း လာမေးတဲ့လူတွေကို ဘာမှ စောဒကမတက်ကြဘူး။ ဒါပေမဲ့ အဲဒီနောက်မှာ ခေတ်တစ်ခေတ် ရောက်လာတယ်။ လူတွေဟာ ဖိကဟ်လမ်းစဉ်၊ မတ်ဇ်ဟဗ်တွေကို သတ်ကလီးဒ်လုပ်တဲ့နေရာမှာ အစွဲထားလာကြတယ်။ အမြင်တွေ ကျဉ်းမြောင်းလာကြတယ်။ ယခုတော့ လူတွေဟာ သီးသန့်သတ်မှတ်ထားတဲ့ အီမာမ်တွေနောက်ကိုပဲ လိုက်ကြတော့တယ်။ မည်သည့် ကိစ္စမှာမဆို ထိုအီမာမ်ရဲ့ အဆိုက အထောက်အထားမဲ့နေလည်း သူ့နောက်ကိုပဲ လိုက်ကြတယ်။ တစ်နည်းအားဖြင့် ဖကီးဟ်၊ မုဂ်ျသဟိဒ်တွေကို တမန်တော်ရဲ့ အဆင့်အတန်းပေးလိုက်ကြတယ်။ အဲဒီအစွဲနဲ့ အစွန်းရောက်မှုက လူတို့ကို အမှန်တရားနဲ့ ဝေးစေခဲ့တယ်။ ဒါဟာ ဦးနှောက် အသိဉာဏ်ရှိတဲ့ ဘယ်သူမှ လက်ခံနိုင်တဲ့ ပုံစံမဟုတ်ပါဘူး။

(အိစ်က်ဒုလ်ဂျီးဒ်ကျမ်း စာ ၈၁ မှ ၈၂)

အီမာမ်အဗူရှာမဟ်(ဟစ်ဂျ်ရီ ၆၆၅ ကွယ်လွန်)က အမိန့်ရှိသည်။

ဖိကဟ်ဓမ္မသတ်နှင့် ပညတ်တို့ကို လေ့လာလိုက်စားတဲ့သူဟာ အိမာမ်တစ်ပါးပါးရဲ့ လမ်းစဉ်ထဲမှာ ပိတ်မိပြီး မနေသင့်ဘူး။ သို့သာမက ကုရ်အာန်၊ ဟဒီးဆ်နဲ့ ဘယ်ဟာက ပိုနီးစပ်သလဲဆိုတာကို ကြည့်သင့်တယ်။ မတ်စ်အလဟ်ရဲ့ ဘယ်ရှုထောင့်၊ သို့မဟုတ် ဖုကဟာတွေရဲ့ ဘယ်အမြင်က ကုရ်အာန်၊ စွန္နဟ်နဲ့ နီးစပ်သလဲ အဲဒီပေါ်မှာ ယုံကြည်ချက်ထားပြီး ကျင့်သုံးသင့်တယ်။ အထက်က ပညာရပ်တွေပေါ် အမြင်ကျယ်ကျယ်ရှိတဲ့သူ၊ ကုရ်အာန် စွန္နဟ် အမိန့်တွေရဲ့ အသွားအလာ အဓိပ္ပာယ် ညွှန်းဆိုမှုတွေကို သိတဲ့သူ၊ မတ်စ်အလဟ် တစ်ခုတည်းမှာ ဖြစ်နေတဲ့ ဖုကဟာတွေရဲ့ အမျိုးမျိုးအမြင်တွေကိုလည်း သိတဲ့သူဟာ ဖိကဟ်လမ်းစဉ် မတ်ဇ်ဟဗ် တစ်ခုတည်းမှာ မိမိကိုယ်ကို ပိတ်မထားဘဲ နေဖို့ ပိုလွယ်ကူပါတယ်။ သို့သော် ထိုသူသည် အစွဲမထားရပေ။ အမြင်ကွဲလွဲရတဲ့ အကြောင်းတရားတွေကို လိုက်လံရှာဖွေခြင်းတို့ကို မပြုသင့်ပေ။ အကြောင်းမှာ ထိုကိစ္စများသည် အချိန်ကုန်ပြီး စိတ်ညစ်ဖို့သာ ကောင်းသည်။ အိမာမ်ရှာဖွေအီ(رحمة الله عليه)၏ စကားတစ်ခု ကျွန်တော်တို့ထံ မှန်ကန်ခိုင်လုံသော ကွင်းဆက်ဖြင့် လာရှိထားသည်။ ယင်းစကားမှာ အိမာမ်ကြီးသည် မိမိကိုရော၊ အခြား ပညာရှင်တွေကိုရော သတ်ကလီးဒ်မလုပ်နှင့်ဟု တားမြစ်ခဲ့သည့် စကားပင် ဖြစ်သည်။

အိမာမ်ရှာဖွေအီ(رحمة الله عليه)၏ တပည့် အိမာမ်မုဇနီ (ဟစ်ဂ်ျရီ ၂၆၄ ကွယ်လွန်)က အမိန့်ရှိသည်။ ကျွန်ုပ်သည် မိမိကျမ်း "အလ်မုခ်

သစွက်ရ်" တွင် အိမာမ်ရှာဖွေအီ (رحمة الله عليه) ၏ ပညာများနှင့် အဆိုများ၏ အဓိပ္ပာယ်တွေကို အတိုချုပ် တင်ပြလိုက်ပြီ။ အကြောင်းမှာ သာသနာ့ ပညတ်ချက်များကို သေချာ ဂရုတစိုက် စဉ်းစားတွေးစ၍ ဆင်ခြင်နိုင်ဖို့အတွက် အိမာမ်ရှာဖွေအီ( رحمة الله عليه)၏ ပညာများကို ပညာသင်တို့အဖို့ နီးစပ်အောင်လုပ်ပေးရန် ဖြစ်သည်။ တစ်ခါတည်း ဒါလေးပါ ပြောပြလိုက်ချင်တယ်။ အိမာမ် ရှာဖွေအီ(رحمة الله عليه)သည် မိမိနှင့် မိမိလို အခြား ဖကီးဟ်ပညာရှင် တွေကို သတ်ကလီးဒ်မလုပ်နှင့်ဟု တားမြစ်ခဲ့တယ်။ ဘယ်လိုပဲ ဖြစ် ဖြစ် အိမာမ်ရှာဖွေအီ(رحمة الله عليه)၏ ပညာများကို လေ့လာလိုက် စားလိုသူ၊ အိမာမ်ရှာဖွေအီ၏ ဖသာဝါတွေနှင့် အမြင်တွေထိ ရောက် လိုသူများကို ကျွန်တော်တို့ ရှင်းရှင်းလေး တင်ပြလိုက်ချင်တာက အိမာမ်ရှာဖွေအီ (رحمة الله عليه)သည် သီးသန့် အာလင်မ်ပညာရှင် တစ်ဦးဦးကို အထူးထားပြီး သတ်ကလီးဒ် လုပ်ခြင်းကို တားမြစ်ခဲ့ တယ်ဆိုတာပါပဲ။ (အိစ်က်ဒုလ်ဂျီးဒ်ကျမ်း၊ စာ ၈၂၊ ၈၃)

အိဗ်နေ့ဟာဇ်မ် (رحمة الله عليه)၏ စကားက ဒီလို သာမာန် ပုဂ္ဂိုလ်နဲ့ လည်းသက်ဆိုင်ပါတယ်။ ထိုသူဟာ ဖေကဟ် ပညာရှင်တွေထဲက ပညာရှင်တစ်ယောက်ရဲ့ သတ်ကလီးဒ် လုပ်တယ်။ ပြီးတော့ ထို ဖကီးဟ် ပညာရှင်က သူ့ အိဂျ်သေဟားဒ် အမြင်မှာ ဘယ်လိုမှ မမှား ယွင်းနိုင်ဘူးလို့ မှတ်ယူထားတယ်။ ပြီးတော့ ထိုဖကီးဟ် လုပ်တဲ့ အိဂျ်သေဟားဒ်၊ ထိုဖကီးဟ် မှတ်ယူ ရပ်တည်တဲ့ အမြင်၊ သူပေးတဲ့

ဖသ်ဝါတွေက သံသယမဲ့ မှန်ကန်တယ်လို့ ယူဆတယ်။ ပြီးတော့ နှလုံးသားထဲမှာလည်း ထိုဖကီးဟ်က ဘယ်လိုပဲ အထောက်အထားနဲ့ ဆန့်ကျင်နေပါစေ သူ့နောက်ကို မျက်စိစုံမှိတ် သတ်က်လီးဒ်လုပ်ခြင်းကို ဘယ်တော့အခါမှ စွန့်လွှတ်မှာ မဟုတ်ဘူးလို့လည်း တွေးထားတယ်။ ကုရ်အာန် ကျမ်းတော်မြတ်နဲ့ တမန်တော်မြတ် ( صلى الله عليه وسلم) ရဲ့ စွန္နဟ်တော်တွေက ဒီလို ယူဆ ကျင့်သုံးပုံကို အကြည်းတန်ကြောင်း ရှင်းလင်း ဖော်ပြထားပါတယ်။ ပမာအားဖြင့် ဟဇရသ် အဒီးအိဗ်နေ့ ဟာသင်မ်က အမိန့်ရှိတယ်။ ကျွန်တော်က တမန်တော်မြတ် (صلى الله عليه وسلم) ကို ဤအာယသ်တော် ဖတ်ရွတ်နေတာကို ကြားခဲ့ရတယ်။ (စူရဟ်သောင်ဗဟ် အာယသ်တော် ၃၁ )

ٱتَّخَذُوٓاْ أَحْبَارَهُمْ وَرُهْبَٰنَهُمْ أَرْبَابًا مِّن دُونِ ٱللَّهِ

ကာဖိရ်တွေဟာ အလ္လာဟ်အရှင်မြတ်ကို စွန့်လွှတ်ပြီးတော့ မိမိတို့ရဲ့ ဘုန်းကြီး၊ ရဟန်းတွေကို အီဗာဒသ် ခပ်ဝပ် ကိုးကွယ်မှုတွေ လုပ်ခဲ့ကြတာမဟုတ်ပါဘူး။ ဒါပေမဲ့ သူတို့က ယင်းပုဂ္ဂိုလ်တွေကို မျက်စိစုံမှိတ်၍ ယုံကြည်ခဲ့ကြတယ်။ သူတို့က ဟလားလ်ဟု ပြောသောအရာကို ဟလားလ်ဟု မှတ်ယူကြသည်။ သူတို့က ဟရာမ်ဟု သတ်မှတ်သောအရာကို မိမိအပေါ်မှာ ဟရာမ်ဟု သတ်မှတ်လိုက်ကြတယ်။ (သရ်မီဇီကျမ်း ဟဒီးစ်နံပါတ် ၃၀၉၅ )

အိဗ်နေ့ဟဇ်မ် (رحمة الله عليه) ရဲ့စကားသည် ဤကဲ့သို့သော ပုဂ္ဂိုလ်တွေအပေါ်မှာလည်း သက်ရောက်ပါသည်။ သူတို့သည် ဟနဖီပုဂ္ဂိုလ်

တစ်ဦးက ရှာဖိအီ ပညာရှင်တစ်ဦးထံ ဖသ်ဝါမေးမြန်းခြင်း၊ သို့မှ ဟုတ် ရှာဖိအီပုဂ္ဂိုလ်တစ်ဦးက ဟနဖီပညာရှင် တစ်ဦးထံမှာ ဖသ်ဝါ မေးမြန်းခြင်းကို မပိုင်ဘူးဟု ယူဆသည်။ ထို့ပြင် ဟနဖီလမ်းစဉ်ကို လိုက်နာသူက ရှဖိအီ အီမာမ်နောက်ကနေ လိုက်၍ စွလားသ်ဝတ်ပြု ခြင်းမှာ မပိုင်ဘူးဟု မှတ်ယူသည်။ စင်စစ်တွင် ဒီလိုလူသည် ရှေး ယခင်တွင် ရှိခဲ့သော ဆွဟာဗဟ်တွေနှင့် သာဗိအီတို့ရဲ့ လမ်းစဉ်၊ သူတို့၏ တညီတညွတ်တည်း ကျင့်သုံး မှတ်ယူမှုများနှင့် လုံးလုံး လျားလျား ဆန့်ကျင်နေပါသည်။

အိဗ်နေ့ဟဇ်မ် (رحمة الله عليه)၏ ပြောဆိုချက်များတွင် ဤကဲ့ သို့သောသူ မပါဝင်ပေ။ ထိုသူသည် တမန်တော်မြတ်( صلى الله عليه وسلم)ရဲ့ မိန့်ကြားချက်များနှင့်အညီ သာသနာကို ရွေးချယ်သည်။ အလ္လာဟ် အရှင်မြတ်နှင့် အလ္လာ့ဟ်တမန်တော်က ဟလာလ်ဖြစ် သည်ဟု သတ်မှတ်သော အရာကို သူက ဟလားလ် ဖြစ်သည်ဟု ယုံကြည်သည်။ အလ္လာဟ်အရှင်မြတ်နှင့် အလ္လာ့ဟ်တမန်တော်က ဟရာမ်ဟု သတ်မှတ်သော အရာကို ဟရာမ်ဖြစ်သည်ဟု ယုံကြည် သည်။ သို့သော် ဤပုဂ္ဂိုလ်သည် တမန်တော်မြတ်( صلى الله عليه وسلم)၏ မိန့်ကြားချက်များ အပေါ်တွင် အမြင်ကျယ်ကျယ် မရှိသော ကြောင့်၊ တမန်တော်မြတ်(صلى الله عليه وسلم) ၏ မိန့်ကြားချက်များ အကြား ကွဲပြားချက်များ ပေါ်ပေါက်လာသောအခါ မည်ကဲ့သို့ ညှိ နှိုင်းရမည်ကို မသိသောကြောင့်၊ တမန်တော်မြတ်(صلى الله عليه وسلم)

၏ မိန့်ခွန်းချက်များမှ အမိန့်များကို မည်ကဲ့သို့ ကောက်နုတ် သုံးသပ်ရမည်ကို မသိသောကြောင့် ဤကဲ့သို့သော ပုဂ္ဂိုလ်သည် စစ်မှန်ရဲရင့်သော ပညာရှင်၏ နောက်ကိုလိုက်၍ သတ်က်လီးဒ် လုပ်သည်။ ထိုပုဂ္ဂိုလ်ပေးသော ဖသ်ဝါကို မှန်ကန်သည်ဟု ယူဆသည်။ ထိုပုဂ္ဂိုလ်သည် တမန်တော်မြတ် (صلى الله عليه وسلم) ၏ စွန္နဟ်တော်ကို လိုက်နာသူ ဖြစ်သည်ဟု သူက ယုံကြည်ထားပါလျှင်၊ တစ်ချိန်ချိန်မှာ ငါသည် ထိုပညာရှင်၏ ဖသ်ဝါနှင့် ဆန့်ကျင်ဘက် ဟဒီးစ်တစ်ပုဒ်ပုဒ် သိလာလျှင် ထိုပညာရှင်၏ ဖသ်ဝါနှင့် အဆိုကို စွန့်ပစ်လိုက်မည်၊ မည်သို့မျှ စောဒက မတက်ဘဲ၊ အထွန့်မတက်ဘဲ တမန်တော်မြတ်(صلى الله عليه وسلم)ရဲ့ ဟဒီးစ်တော်ကို ရင်ဝယ်ပိုက်မည်ဟု ဆုံးဖြတ်ထားလျှင် ဤကဲ့သို့သော သူ၏လုပ်ရပ်အပေါ်တွင် မည်သို့မျှ စောဒကတက်ခွင့် မရှိပေ။

ဤကဲ့သို့ ကျင့်သုံးမှုမျိုးသည် တမန်တော်မြတ်(صلى الله عليه وسلم)ရဲ့ ခေတ်ကာလမှာကတည်းက ကျင့်သုံးလာခဲ့ကြသည်။ ပညာရှင်များက ဖသ်ဝါပေးကြသည်။ ပညာနက်ရှိုင်းမှု မရှိသူတို့က ထိုဖသ်ဝါပေးသော ပညာရှင်များ၏ ဖသ်ဝါမွေသတ်များ အပေါ်တွင် မှီခို အားထားကြရသည်။ သို့သော် ပညာရှင် တစ်ပါးတည်း၊ မုဖ်သီ တစ်ပါးတည်းကိုပဲ ဖသ်ဝါမေးမြန်းခြင်း၊ ပညာရှင်တစ်ပါးတည်း၏ အဆိုအမိန့်များကိုသာ ကျင့်သုံးခြင်း၊ သို့မဟုတ် တစ်ခါတလေ ပညာရှင်တစ်ပါးကို ဖသ်ဝါမေးမြန်း၍ တစ်ခါတလေ နောက်အခြား ပညာရှင်

တစ်ပါးကို ဖသ်ဝါမေးမြန်းခြင်းတို့မှာ မည်သို့မျှ ပြဿနာ မရှိပေ။ သို့သော် စည်းကမ်းချက်ကတော့ ဤလုပ်ငန်းစဉ်အားလုံးတို့တွင် ကျွန်တော်တို့ ယခင်ကဖော်ပြခဲ့သော နည်းဥပဒေများနှင့် ကိုက်ညီရန်သာ လိုအပ်ပေသည်။ အကယ်၍ ကျွန်ုပ်တို့သည် ဖေကဟ်ပညာရှင်များအနက် ပညာရှင်တစ်ဦး၏ သတ်ကလီးဒ် လုပ်သည် ဆိုလျှင် ဤကဲ့သို့ မှတ်ယူ၍လုပ်ကြပေသည်။ ထိုဖကီးဟ် ပညာရှင်သည် ကုရ်အာန်ကျမ်းတော်မြတ်နှင့် တမန်တော်မြတ်(صلى الله عليه وسلم)ရဲ့ စွန္နဟ်တော်များကို သိကျွမ်းသော ပညာရှင်ဖြစ်မည်။ သူ၏အမြင်၊ သူ၏ဖသ်ဝါသည် ကုရ်အာန်နှင့် စွန္နဟ်၏ ရှင်းလင်းပြတ်သားသော အမိန့်ပညတ်ချက်နှင့် ကိုက်ညီပေလိမ့်မည်။ သို့မဟုတ် ကုရ်အာန်၊ စွန္နဟ်၏ ရှင်းလင်း ပြတ်သားစွာ လာသောစာသား၊ သို့မဟုတ် ကုရ်အာန် စွန္နဟ်အနက် တစ်ခုခု၏ စာသားထဲမှ ကောက်ယူ ထုတ်နှုတ်ထားသော အရာဖြစ်ပေလိမ့်မည်။ သို့မဟုတ် ထိုပညာရှင်သည် ကုရ်အာန်၊ စွန္နဟ်တွင် ရှိသော အရိပ်အမြွက်များမှ အမိန့်ပညတ်တစ်ခုခုကို ထုတ်ယူခဲ့ခြင်း ဖြစ်မည်။ ဤပညတ်ချက်သည် ဤသို့ထိုသို့ပုံစံတွင်၊ ဤသို့ထိုသို့သော အိလ္လသ် အကြောင်းအရင်းကြောင့် ထုတ်နှုတ်ခဲ့ခြင်း ဖြစ်မည်။ ထို့အပြင် သူသည် မိမိ၏ ဤကြိုးပမ်းမှုအားလုံးတွင် စိတ်ကျေနပ်၍ စိတ်လည်းအေးမည်။ ဤအခြေခံကြောင့်သာလျှင် သူသည် ကုရ်အာန်၊ ဟဒီးစ်တွင် မလာရှိသော အရာကို ကုရ်အာန်၊ ဟဒီးစ်တွင် လာရှိသောအရာအပေါ်တွင်

ကေယာစ်လုပ်ခဲ့ခြင်း ဖြစ်သည်။ သူ၏ ဤလုပ်ငန်းစဉ်အားလုံးက မည်သို့ သက်သေထွက်ဆိုနေသလဲဆိုလျှင် သူက ဤကဲ့သို့ ပြောနေ ဟန်တူပေသည်။ တမန်တော်မြတ်(صلى الله عليه وسلم)၏ မိန့်ကြား ချက် ဤသို့ ရှိသည်။ အသင်တို့ ဤအိလ္လသ် အကြောင်းအရင်းကို ဘယ်နေရာမှာတွေ့မလဲ ထိုနေရာတွင် ဤအမိန့်ပညတ်ချက် ဖြစ် သည်ဟု တမန်တော်မြတ်က မိန့်ကြားနေဟန်တူပေသည်။ မည် သည့် မဆ်အလဟ်တွင်ပဲ ကေယာစ်လုပ်လုပ်၊ ထိုကေယာစ်ဖြင့် လုပ်သော အမိန့်ပညတ်ချက်သည် ကုရ်အာန်၊ ဟဒီးစ်၏ عموم ခြုံငုံ အမိန့်တွင် ပါဝင်ပေသည်။ ထို့ကြောင့် ဤသည်လည်း တမန်တော် မြတ်(صلى الله عليه وسلم) ဘက်တော်သို့ ဆက်နွယ်ခြင်း ခံရပေသည်။ သို့သော် ဤပုံစံတွင်လည်း သံသယနှင့် မကင်းပေ။

အကယ်၍ ဤသို့သာမဟုတ်လျှင် မည်သည့်မုအ်မင်န်မှ မည်သည့် မုဂ်ျသဟီးဒ်၏ သတ်က်လီးဒ်မှ လုပ်မည်မဟုတ်ပေ။ ထို့ကြောင့် ကျွန်ုပ်တို့သည် ထိုအီမာမ်တွေ၏ လမ်းစဉ်နှင့် ဆန့်ကျင်ဘက် စနဒ် အပြည့်အဝဖြင့် လာရှိထားသော ဟဒီးစ်တစ်ပုဒ်ပုဒ်ကို တွေ့ရလျှင်၊ ထို့နောက်ကျွန်ုပ်တို့သည် ယင်းဟဒီးစ်ကို စွန့်လွှတ်၍ မုဂ်ျသဟီဒ်၏ အမြင်၊ လမ်းစဉ်ကိုသာ ဦးစားပေးပြီး ထိုလမ်းစဉ်အပေါ်တွင်သာ ဇွတ်ပေပြီး ရပ်နေကြမည်ဆိုလျှင် ကျွန်တော်တို့ထက် ပို၍ မတရား သောသူ မည်သူရှိမည်နည်း။ အကြောင်းမှာ တမန်တော်မြတ်( صلى الله عليه وسلم) ရဲ့ ဟဒီးစ်နောက်ကို လိုက်ခြင်းမှာ ကျွန်တော်တို့ အပေါ်

ဖရ်ဇ်ဖြစ်ပြီး အီမာမ်တစ်ပါးပါး၊ မုဂ်ျသဟိဒ်တစ်ပါးပါး၏ အမိန့်ကို နာခံခြင်းမှာ ကျွန်ုပ်တို့အပေါ် ဖရ်ဇ်မဟုတ်ပေ။ အကယ်၍ ကျွန်ုပ်တို့ သည် အလ္လာဟ်တမန်တော်၏ စွန္နဟ်တော်ကို စွန့်လွှတ်၍ အီမာမ် တစ်ပါးပါး၊ ဖကီးဟ်ပညာရှင်တစ်ပါးပါး၊ မုဂ်ျသဟီးဒ် တစ်ဦးဦး၏ အဆိုအမိန့်များ၊ အမြင်များနောက်ကို လိုက်မည်ဆိုလျှင် အလ္လာဟ် အရှင်မြတ်၏ ရှေ့တော်မှောက် မတ်တတ်ရပ်ကြရမည့်နေ့တွင် ကျွန်ုပ်တို့ အလ္လာဟ်အရှင်မြတ်ကို ဘယ်လို အကြောင်းပြမည်နည်း။ ထိုနေ့တွင် အလ္လာဟ်အရှင်မြတ်နှင့် အလ္လာဟ်တမန်တော်၏ အမိန့် တော်ကို နာခံခဲ့သလားဟူသော မေးခွန်းကိုသာ မေးမြန်းမည် ဖြစ် သည်။

အထက်ပါ ညှိနှိုင်းမှုများတွင် ရှားဟ် ဝလီယွလ္လာဟ် သခင်က သတ်က်လီးဒ်ဟူသော စကားလုံးကို သုံးခဲ့သည်ဆိုပေမယ့် ဆိုလို ချက်မှာ အေသ်သီဗအ် ဖြစ်ပေသည်။ အေသ်သီဗအ်ဖြစ်ကြောင်း ရှားဟ်ဝလီယုလ္လာဟ်၏ တခြားစကားများမှသိရပေသည်။

လူတော်တော်များများဟာ အိသ်သီဗအ်ကို မရွေးချယ်ဘဲ သတ်က် လီးဒ်ကိုသာ ရွေးချယ်လိုက်ကြသည်။ ထို့နောက် သတ်က်လီးဒ်ကို ခုခံကာကွယ်ဖို့အတွက် အမျိုးမျိုးသော စောဒကတွေ သံသယတွေ ကို တင်ဆက်ကြတယ်။ ဒီလိုလူတွေနဲ့ ပတ်သက်ပြီးတော့ ရှားဟ် ဝလီယွလ္လာဟ် (رحمة الله عليه) သခင်က ဤသို့ အမိန့်ရှိသည်။ "ယနေ့ မှာ အသင်တို့သည် ယဟူဒီတို့နဲ့ နမူနာတူသောသူကို မြင်ချင်လျှင်

ထိုဆိုးရွားသော အိုလမာပညာရှင်များကို ကြည့်ပါ။ ၎င်းတို့သည် ဒွန္နယာ ရှာဖွေကြသည်။ ရှေးလူတို့၏ နောက်ကို လိုက်၍ သတ်က် လီးဒ်လုပ်ခြင်းက သူတို့၏ အကျင့်စရိုက် ဖြစ်သည်။ အလ္လာဟ် အရှင်မြတ်၏ ကျမ်းတော်နှင့် တမန်တော်မြတ် (صلى الله عليه وسلم) ၏ ဟဒီးစ်တော်၊ စွန္နဟ်တော်များကို ၎င်းတို့က ကျောခိုင်းမျက်နှာလွှဲ ထားကြသည်။ အီမာမ်တစ်ပါးတည်း၏ အဆိုကို မျက်လုံးမှိတ်ကာ ဇွတ်ပေ၍ ဆွဲမြဲစွာ ဆုပ်ကိုင်ထားကြသည်။ ၎င်းနှင့်ယှဉ်၍ အပြစ် များမှ ကင်းစင်သော တမန်တော်မြတ် (صلى الله عليه وسلم)၏ စကား ကိုကျတော့ ဂရုမမူ အလေးမထားဘဲ စွန့်ပစ်ထားကြသည်။ ထို့ နောက် လုပ်ကြံထားသော ဟဒီးစ်တော်များနှင့် မဟုတ်မမှန် မှား ယွင်းသော ဖွင့်ဆိုမှုများကို မိမိတို့၏ အကျင့်စရိုက်များအဖြစ်၊ လျှောက်လှမ်းရာ ဦးဆောင်အဖြစ် ဖက်တွယ်ထား ကြသည်။ (အလ် ဖောင်ဇုလ်ကဗီးရ်ကျမ်း စာမျက်နှာ ၁၀)

တချို့လူတို့သည် သတ်က်လီးဒ်ကို ကာကွယ်ဖို့ အိသ်သေဗအ်နဲ့ ပတ်သက်သည့် အထောက်အထားများကို မိမိတို့၏ အထောက် အထားအဖြစ် တင်ပြကြပေသည်။ အာဂဇ်ဆိုတဲ့ တီဗီအစီစဉ် channel တစ်ခုမှာ အိမ်ရှင်က ပညာရှင်များကို ခေါ်ယူ၍ သတ်က် လီးဒ်နှင့် ပတ်သက်ပြီး မေးခွန်းများကို မေးသည်။ မေးခွန်း ဤသို့ မေးသည်။ သတ်က်လီးဒ်ဆိုသည်မှာ မဇ်ဟဗ်အတွက် ဖရ်ဇ် ဖြစ်ပါ သလား။ သာသနာတော်က လိုလားသော တာဝန်တစ်ရပ် ဖြစ်ပါ

သလား။ မုဖ်သီနဇီး၏ အဟ်မာဒ် ဆွာဟိဗ်က ဤသို့ဖြေသည်။ ရိုးရိုး သာမာန် လူတစ်ယောက် အတွက်ကတော့ သတ်က်လီးဒ် လုပ်ခြင်း မှာ ဖရ်ဇ်ဖြစ်ပေသည်။ သို့သော် စည်းကမ်းချက်မှာ သူ၏အမြင် သည် ကုရ်အာန်၊ ဟဒီးစ်တော်နဲ့ တိုက်ရိုက်ဆန့်ကျင်နေခြင်း မရှိ စေရ။ သို့သော် ပညာရှင် တစ်ဦးဖြစ်ပါက ပမာအားဖြင့် ကျွန်တော် ဖြစ်မည်။ ကျွန်တော့် အီမာမ်၏ အဆိုတစ်ခုခုက ကုရ်အာန်၊ စွန္နဟ် နှင့် ဆန့်ကျင်နေမည်။ ထို့အပြင် ကျွန်တော့်အတွင်းတွင် ပညာရေး နှင့် ပတ်သက်၍ ကျွမ်းကျင်နှံ့စပ်မှုလည်း ရှိမည်။ အရည်အချင်း လည်း ရှိမည်။ ပမာအားဖြင့် ကျွန်ုပ်တို့၏ အီမာမ်ကြီး အီမာမ်အဗူ ဟနီဖဟ်၏ အမြင်မှာ ဤသို့ရှိသည်။ အကြင်သူသည် အာရဗီလို မတတ်ကျွမ်း မတတ်စွမ်းနိုင်ပါက ထိုသူသည် နမာဇ်တွင် ဖာရစီ ဘာသာစကားဖြင့် ကေရာအသ်ဖတ်ပိုင်ခွင့်ရှိသည်ဟု ဆိုထားသည်။ ယခု ဤ အီမာမ်ဆပ်ကြီး၏ အမြင်သည် ကျွန်ုပ်တို့၏ အမြင်နှင့် မတူပေ။ အီမာမ်ဆပ်ကြီး၏ ဤအမြင်ကို ကျွန်ုပ်တို့လက်မခံပေ။ အကြောင်းမှာ ကုရ်အာန်၊ စွန္နဟ်၏ ရှုတောင့်အလင်းတန်း အောက် တွင် ဤအမြင်သည် မသင့်လျှော်ဟု ကျွန်ုပ်တို့မှတ်ယူပါသည်။ ထိုအခါ TV channel အစီစဉ်ထဲက အိမ်ရှင်က ဝင်၍မေးသည်။ ထိုသို့ဆိုလျှင် တစ်ချိန်တည်းမှာပင် လူတစ်ဦးသည် အီမာမ် တစ်ပါး တည်းကို သတ်က်လီးဒ် လုပ်စရာမလိုဘူးဆိုတဲ့ သဘောလား။ သတ်က်လီးဒ်နှင့် ပတ်သက်၍ ထိုမေးခွန်းကို ဟာဖိဇ် အဗ်ဒုလ်ရရှီးဒ်

အဗ္ဗဟာရ်(رحمة الله عليه)ကို မေးမြန်းခြင်းခံရတော့ ဆရာကြီးက ထိုမေးခွန်းနှင့်ပတ်သက်၍ ပြည့်စုံသောအဖြေကို ဤသို့ပေးသည်။ သာသနာသည် အလ္လာဟ်အရှင်မြတ်၏ ကျမ်းတော်နှင့် ရစူလွလ္လာဟ် (صلى الله عليه وسلم)၏ စွန္နဟ်တော်တို့၏ နာမည်ဖြစ်ပေသည်။ တမန်တော်မြတ်(صلى الله عليه وسلم) လောကကို စွန့်ခွာ၍ ကွယ်လွန်တော်မူသွားသောအခါ တမန်တော်မြတ် (صلى الله عليه وسلم)၏ ကွယ်လွန်တော်မူခြင်း မတိုင်မီ ဤအာယသ်တော် ကျခဲ့လေသည်။ (စူရဟ် မာအိဒဟ် အာယသ် ၃)

ٱلْيَوْمَ أَكْمَلْتُ لَكُمْ دِينَكُمْ وَأَتْمَمْتُ عَلَيْكُمْ نِعْمَتِى

ဒီကနေ့ အသင်တို့ရဲ့ သာသနာကို ပြည့်စုံစေလိုက်ပြီ။

တမန်တော်မြတ်(صلى الله عليه وسلم)၏ ဘဝ၏ နောက်ဆုံးအချိန်ကာလတွင် သာသနာ၏ အစိတ်အပိုင်း မဟုတ်သော အရာသည် တမန်တော်မြတ် မရှိပြီးနောက်ပိုင်းတွင်လည်း လောက၏ မည်သည့် အင်အားကမျှ ထိုအရာကို သာသနာ၏ အစိတ်အပိုင်းအဖြစ် မလုပ် နိုင်ပေ။ ကုရ်အာန်ကျမ်းတော်မြတ်နှင့် စွန္နဟ်တော်၏ ဘဏ္ဍာတိုက် တစ်ခုလုံးတွင် သတ်က်လီးဒ်ဟူသည့် စကားလုံးကို တစ်နေရာမှာမှ မတွေ့ရပေ။ သို့ဖြစ်ရာ ဤသည် သာသနာတော်က လိုလားသော ဖရ်ဇ်တာဝန်တစ်ရပ် မည်သို့ဖြစ်နိုင်အံ့နည်း။ သတ်က်လီးဒ်၏ အဓိပ္ပာယ်မှာ အထောက်အထားမဲ့ တစ်ဦးတစ်ယောက်၏ စကားကို လက်ခံနာယူခြင်းဖြစ်ပါသည်။ သို့သော်ကျွန်ုပ်တို့၏ တစ်သက်လုံး၊

တစ်ဘဝလုံးတွင် လူသား၏ သဘာဝအရ စကားပြောလျှင် မည်သည့် အချက်ကိုမဆို အထောက်အထားနှင့် ဖြစ်ရမည်ဟု တောင်းဆိုနေကြပေသည်။ မုဖ်သီဆွာဟိဗ်က အမိန့်ရှိသည်။ အီမာမ်၏ အမြင်ကိုလည်း ကျွန်ုပ်တို့ကြည့်ရမည်။ ထိုအမြင်တွင် မည်ကဲ့သို့ အလေးချိန်ရှိသနည်း။ အလေးအချိန်ရှိခြင်းကပင်လျှင် အထောက်အထားဖြစ်သည်။ အကယ်၍ အလေးချိန်ရှိမည်။ ထို့ပြင် ယင်း အလေးချိန်ကို ကြည့်ခြင်းရှိရမည်ဆိုလျှင် သတ်က်လီးဒ် ဟူသည့် အသုံးအနှုန်းသည် အစကတည်းက ရှိပင်မရှိပေ။

ဤသတ်က်လီးဒ်သည် သာသနာတော်၏ ဖရ်ဇ်တာဝန်တစ်ရပ်၊ အမိန့်ပညတ်ချက်တစ်ခု၊ သာသနာတော်၏ အစိတ်အပိုင်းတစ်ခု မဟုတ်ပေ။ သို့သာမက သာသနာအပေါ် ကျင့်သုံးရန်အတွက် လူတို့ နှစ်ခြိုက်လိုက်ကြသော လမ်းစဉ်တစ်ခုသာ ဖြစ်ပေသည်။ အွမ္မသ် ထုတစ်ရပ်လုံးကို စည်းလုံးစေရန်အတွက် ထိုသတ်က်လီးဒ်ကို စတင်ခဲ့ကြသည်။ ထိုသတ်က်လီးဒ်အကြောင်း တမန်တော်မြတ်( صلى الله عليه وسلم) နှင့် ဆွဟာဗဟ် သာဝကကြီးများ ခေတ်တွင် မရှိခဲ့ပေ။ မေးခွန်းမေးခြင်း၊ မေးခွန်းအတွက် အထောက်အထား တောင်းခြင်း၊ အထောက်အထားအပေါ် အခြေခံ၍ ကုရ်အာန်ကျမ်းတော်မြတ်နှင့် ဟဒီးစ်တော်များရဲ့ အထောက်အထားများကို လေ့သာသုံးသပ်ခြင်း၊ ဟုတ်မဟုတ် အမြင်များကို သုံးသပ်ခြင်း၊ မှန်မမှန်အမြင်များကို အကဲစစ်ခြင်း၊ အကယ်၍ မနှစ်သက်ပါက ယင်းကို စွန့်လွှတ်လိုက်

ခြင်း၊ ဤလုပ်ငန်းစဉ်အားလုံးက မည်သည့် အချက်ကို မီးမောင်းထိုး ပြနေသလဲဆိုတော့ သတ်က်လီးဒ်သည် လောကတွင် အစကတည်း က ရှိပင်မရှိခဲ့ပေဟု ဖော်ပြနေပေသည်။ ဤသည် စကားလုံးတစ် လုံးမျှသာ ဖြစ်ပေသည်။ ယင်းစကားလုံးအပေါ် ဇွတ်ပေ၍ နေနေကြ ပေသည်။ သာသနာအပေါ် ကျင့်သုံးရန်အတွက် လူသား မောပန်း စရာမလို၊ ပင်ပန်းစရာမလို၊ ကြိုးစားစရာမလိုဘဲ၊ ကျင့်သုံးရန် အတွက် လွယ်ကူသော နည်းလမ်းတစ်ခုဖြစ်သည်ဟု ဆိုကြသည်။ အကယ်၍ အိဂ်ျသေဟားဒ်သာ လုပ်ရမည်ဆိုလျှင် အိဂ်ျသေဟားဒ် သည် သတ်က်လီးဒ်နှင့် ရာနှုန်းပြည့် ဆန့်ကျင်ဘက် ပြောင်းပြန်သာ ဖြစ်ပေသည်။ သဘာဝနှင့် အံ့ဝင်ခွင်ကျ အပြည့်အဝဖြစ်အောင် ရှရီအသ်က ပေးထားသော ပညတ်ချက်များကို အေသ်သေဗအ် လုပ် ခြင်းနှင့် အီသွာအသ်လုပ်ခြင်းဆိုသည့် စကားလုံးများသာ ရှိပေ သည်။ ယင်းအတွက် အေသ်သေဗအ်နှင့် အီသွာအသ်ဟူသည့် စကားလုံးများကို သုံးပေသည်။ အေသ်သေဗအ်နှင့် အီသွာအသ် ဆိုသည်မှာ အထောက်အထားနှင့်တကွ နောက်လိုက်ခြင်းကို ဆိုပေ သည်။ ကျွန်ုပ်ပြောမည်၊ ခင်ဗျားစကားတွေက လမ်းကြောင်းနှင့် တော်တော်ဝေးသွားပြီ။ အလ္လာဟ်အရှင်မြတ်က မိမိ၏ဗန္ဒာကျေး ကျွန်များကို မိန့်ကြားတော်မူသည်။ ထိုသို့မိန့်ကြားရာတွင်လည်း အထောက်အထားမဲ့ မဟုတ်ပေ။ တမန်တော်မြတ်( صلی الله علیه وسلم)၏ မှန်ကန်မှုနှင့် သစ္စာရှိမှုတို့ကို အထောက်အထားမဲ့ မိမိဗန္ဒာ

များအား လက်ခံစေခဲ့သည်မဟုတ်ပေ။ မိုအ်ဂျေဇဟ် တန်ခိုးတော် အထောက်အထားများ ရှိခဲ့ပေသည်။ တမန်တော်မြတ်( صلى الله عليه وسلم) ကိုယ်တိုင်ကမူ တမန်တော်မြတ်၏ မိန့်ကြားချက်ကိုက အထောက်အထားဖြစ်နေပေမယ့် ကိုယ်တော်သည် သာသနာတော် သင်ကြားရာတွင်၊ စကားပြောနေစဉ်အတောအတွင်း အထောက် အထားများအဖြစ် ကုရ်အာန်အာယသ်တော်များကို တင်ပြလေ့ ရှိပေ သည်။ အကယ်၍ ရိုးရိုးသာမာန်လူတစ်ဦးကို အထောက်အထားမဲ့ တစ်စုံတစ်ဦး၏ စကားကို လက်ခံနာယူလို့ရတယ်ဟု လမ်းကြောင်း အပေါ်တွင် တင်ပေးလိုက်မည်ဆိုပါလျှင် သဘာဝနဲ့ ဆန့်ကျင်ဘက် အရောင်တစ်မျိုးဖြစ်ထွန်းလာပေတော့မည်။ ဤသည် လူတို့ကို ပျက်စီးနေသော လမ်းကြောင်းအပေါ်သို့ တင်ပေးလိုက်ခြင်းသာ ဖြစ် ပေသည်။ ထိုအခါ channel ပိုင်ရှင်က ကြားဝင်၍ စကားဝင် ထောက်သည်။ သို့ဆိုလျှင် သတ်က်လီးဒ်သည် အိဂ်ျသီဟားဒ်နဲ့ လုံးဝ ဆန့်ကျင်ဘက်ဖြစ်သည်ဟု ဆရာပြောချင်တာလား။ ထိုအခါ ရှိုက်ခ် က အမိန့်ရှိသည်။ ဆန့်ကျင်ဘက်ပါပဲ။ သတ်က်လီးဒ်၏ လုပ်ငန်း စဉ်သည် ရှိပင်မရှိခဲ့ပေ။ ခေတ်တိုင်း ခေတ်တိုင်းတွင် ပညာရှင်များ က သတ်က်လီးဒ်နှင့်ဆန့်ကျင်၍ အသံတစ်ခုမဟုတ်တစ်ခု မြှင့်တင် ခဲ့ကြသည်။ ဆန့်ကျင်ခဲ့ကြသည်။ ရှားဝလီဟွလ္လာဟ် (رحمة الله عليه) က အဘယ်မျှ မိန့်ကြားခဲ့သလဲဟူမူ ကျွန်ုပ် အလ္လာဟ်အရှင်မြတ်ကို တိုင်တည်၍ ပြောမည်။

أشهد بالله و الله လူတစ်ဦးသည် အခြား လူတစ်ယောက်နှင့် ပတ်သက်၍ ဤသို့မှတ်ယူမည်။ ဤပုဂ္ဂိုလ်သည် ကျွန်ုပ်အပေါ် ဖရ်ဇ်ဟု ပြဋ္ဌာန်းသော အရာကို ကျွန်ုပ်က လက်ခံဖို့ ဖရ်ဇ်ဖြစ်သည်။ ထို့သို့ ပြောဆိုသောစကားသည် အစ္စလာမ် သာသနာအတွင်းမှ ထွက်စေသော၊ အစ္စလာမ်၏ ဘောင်အပြင်ကို ရောက်စေသော စကားဖြစ်သည်တဲ့။ channel ပိုင်ရှင်ကပြောသည်။ အီမာမ်က မိန့်ကြားနေသော စကားသည် ကုရ်အာန်၊ ဟဒီးစ်၏ အလင်းတန်းအောက်တွင် ကုရ်အာန်၊ ဟဒီးစ်နဲ့ပြောနေမည်ဆိုလျှင်လည်း ထိုစကားသည် သာသနာနှင့် ဆန့်ကျင်ဘက် မည်သို့ဖြစ်နိုင်မည်နည်း။ ထိုအခါ ရှိုက်ခ်က ချိုချိုသာသာပဲ ချက်ချင်းအဖြေပေးသည်။ ဟုတ်ပါတယ်။ ထိုအီမာမ်သည် ကုရ်အာန်၊ ဟဒီးစ်နဲ့ ကိုက်ညီစွာ ပြောဆိုနေသည်ဟု ကျွန်ုပ်တို့ သိရပါမူ တစ်နည်းအားဖြင့် ကျွန်ုပ်သည် ၎င်းကိုအကြောင်းခံပြီး ကုရ်အာန်နှင့် ဟဒီးစ်ကို သင်ယူ၍၊ ကုရ်အာန်၊ ဟဒီးစ်ရဲ့စကားကို လက်ခံနာယူနေသည့် ပုံစံပဲ ဖြစ်သွားပေသည်။ ယင်းကိုပဲ အေသေဗအ်ဟု ခေါ်ပေသည်။ ယင်း၏နာမည်ကို သတ်က်လီးဒ်ဟု မခေါ်ပေ။ သတ်က်လီးဒ်ဆိုသည်မှာ အထောက်အထားမဲ့ တစ်စုံတစ်ဦး၏ စကားကို လက်ခံနာယူခြင်း ဖြစ်ပေသည်။ မုဖ်သီနဇီးရ် အဟ်မဒ်ဆပ်က စကားဖြတ်၍ ဤသို့ပြောသည်။

"အီမာမ်အဗူဟနီဖာဟ်နှင့် သူ၏တပည့်တော်များက အများစု ကွဲလွဲခဲ့ကြသည်။ အီမာမ်အဗူယူစွဖ်(رحمة الله عليه) အီမာမ် မိုဟမ္မဒ်

(رحمة الله عليه) အဆုံးပြောရလျှင် အီမာမ်ဇူဖရ်(رحمة الله عليه)တို့က များစွာ ကွဲလွဲခဲ့ကြသည်။ ယင်းပုဂ္ဂိုလ်များသည် အီမာမ်အဗူဟာနီဖဟ်၏ လက်ရွေးစင် တပည့်တော်များဖြစ်ကြသည်။ ဒါက ဘာသဘော သက်ရောက်သလဲဆိုတော့ အီမာမ်အဗူဟာနီဖဟ်၏ ကိုယ်ခန္ဓာနှင့် သူ၏စကားများသည် ကျွန်ုပ်တို့အတွက် အထောက်အထား မဟုတ်ပေ။” ထိုအခါ ဒေါက်တာရှိုင်းခ် ဆွာဟိဗ် (رحمة الله عليه)က ပြောသည်။ ဒါကိုပဲ ကျွန်တော်တင်ပြနေခြင်း ဖြစ်ပါတယ်။ လောကတွင် သက်လီးဟူသည့်အရာသည် အစကတည်းက ရှိပင်မရှိပေဟု ကျွန်တော်တင်ပြနေခြင်းဖြစ်ပါတယ်။

ကျမ်းပြုစုသူ ဂျလ္လာဟ်လုဒ္ဒီးန်(ကာစီမီ)သည် သတ်က်လီးဒ်ကို ထုခြေဖို့ အထောက်အထားများကို အင်မတန်ပြည့်ပြည့်ဝဝနဲ့ စီမံစီစဉ်ခဲ့သည်။ ကျမ်းပြုစုသူသည် ယုံကြည်စိတ်ချရသော ပညာရှင်တစ်ဦး ဖြစ်သည်။ သူသည် ဒါရှုလ်အူလူးမ်ဒေယိုဗန်တွင် ကျောင်းပြီးဘွဲ့ရ၍ အိန္ဒိယနိုင်ငံ မိုင်စူရ် university အူရ်ဒူဘာသာရပ်တွင် MA ပြုလုပ်ခဲ့သည်။ အူရ်ဒူ၊ အာရဗီ၊ ဖာရစီ၊ အင်္ဂလိပ်နှင့် သန်ကရိုက် ဘာသာစကားတွေတို့ကို ကျွမ်းကျင်စွာ တက်မြောက်ထားသည်။ ပညာရေးနှင့်ယဉ်ကျေးမှု စာပေလောကတွင် သူ၏ လူပုဂ္ဂိုလ်နှင့် သာသနာရေးဆိုင်ရာ ပြုစုမှုများကို လူတို့ ဂုဏ်ယူစွာ ကြည့်ရှုကြပေသည်။ စာရေးသားပြုစုသူသည် သတ်က်လီးဒ်ကို ထောက်ခံ၍ တက်လာသော စောဒကများကို စိတ်ကျေနပ်သွား

လောက်တဲ့အထိ ချေမှုန်းပေးထားပေသည်။ အမှန်တရားကို ရှာဖွေနေသူအတွက် ဤစာအုပ်သည် လမ်းပြတစ်ခုဖြစ်နိုင်ပါသည်။ ပါကိစ္စတန်မှ ရိုက်နှိပ်ထုပ်ဝေသော ဤပထမဦးဆုံးပုံနှိပ်ကို ဟဒီးစ်တော်များထုတ်နှုတ်ခြင်း၊ သုတေသနလုပ်ခြင်း၊ လွယ်ကူစေခြင်းနှင့် စကားဦးရေးခြင်း၊ ဒုတိယတစ်ကြိမ် ပြန်လည် ဆန်းစစ်ခြင်းတို့ ပြုလုပ်ပြီးသည့်နောက် ထုတ်ဝေပုံနှိပ်ခဲ့ခြင်း ဖြစ်ပါသည်။

ဟဒီးစ်တော်များကို ထုတ်နှုတ်သူမှာ အဗူမိုဟမ္မဒ် အခ်သရ်ရှိ ဖြစ်ပါသည်။ ပြန်လည်သုတေသန လုပ်သူမှာ မော်လာနာ မိုဟမ္မဒ် အရှ်ရဖ်ကမားလ် ဖြစ်ပါတယ်။ သို့သော် တချို့ဟဒီးစ်တော်များကို စွဟီးဟ်ဟု သတ်မှတ်ရာတွင် အလ္လာမဟ်အလ်ဗာနီ ( رحمة الله عليه)၏ အမြင်ကို မော်လာနာ အဗ္ဗဒ္ဒုလ္လာဟ် အခ်သရ်ဆပ်က တင်ပြပါသည်။ သို့ရာတွင် သုတေသနပြုသူက ထိုအမြင်နှင့် တစ်နေရာရာတွင် ကွဲလွဲပါက ယင်းကွဲလွဲချက်ကို ဤသို့စကားလုံးဖြင့် ရည်ညွှန်းထားပါသည်။ သို့ရာတွင် တချို့ သုတေသနပညာရှင်များက ဤဟဒီးစ်၏ စနဒ်ကို ဒွအီးဖ်အားနည်းသည်ဟု သတ်မှတ်ပါသည် စသဖြင့် ဤသို့ ရည်ညွှန်းထားပေသည်။ ဤသုတေသနလုပ်ငန်းစဉ်များကြောင့် စာအုပ်၏ အကျိုးပြုမှုနှင့် ယုံကြည်ရသော အဆင့်အတန်းမှာ ပို၍တိုးသွားပေသည်။

အလ္လာဟ်အရှင်မြတ်သခင် ရေးသားသောသူ၊ ပြုစုသူနှင့် ဝိုင်းဝန်းကူညီသူများအားလုံးကို သူတို့၏ ကြိုးစားမှု၏ အစား

ချီးမြှင့်၍ လက်ခံတော်မူပါစေ။

**ဒအ်ဝဟ်သောင်ဟီးဒ်(ပါကစ်တန်) စာစောင်၏ ဒုဥက္ကဋ္ဌ ဒေါက်တာ ဟာဖွေဇ်မုဟမ္မဒ် ရှဟ်ဗားဇ် ဟစန်၏**

# စကားချီး

ဆွဟာဗာဟ် သာဗီအီနှင့် သဗအ်သာဗီအီတို့က ကုရ်အာန်၊ စွန္နဟ် ကိုပဲ ရှရီအသ်နဲ့ ဖေကဟ် ပညတ်ချက်တွေရဲ့ အဓိက ထွက်ပေါ်ရာ ရေသောက်မြစ်လို့ မှတ်ယူခဲ့ကြတယ်။ သူတို့တစ်တွေက တမန် တော်မြတ် (صلى الله عليه وسلم)ရဲ့ခေတ်အခါ ကာလက မကြုံဖူးတဲ့၊ မဆ်အလဟ်တချို့နဲ့ တွေ့ကြုံကြရပြီဆိုလျှင် ထိုမဆ်အလဟ် ပညတ်ချက်နဲ့ ပတ်သက်ပြီးတော့ သူတို့ အိဂ်ျသေဟားဒ် လုပ်ကြ တယ်။ အစ္စလာမ့် အင်ပါယာကျယ်ဝန်းသွားတဲ့ အပေါ်မှာ ဖေကဟ် ပညတ်ချက်တွေ ပြဋ္ဌာန်းခြင်းရဲ့ ကွင်းပြင်ကလည်း ကျယ်ဝန်းသွား ခဲ့ပါတယ်။ ထိုအခါ ဖေကဟ်၏ အရင်းအမြစ် ၄ ခု ဖြစ်သွားခဲ့တယ်။ ကုရ်အာန်၊ ဟဒီးစ်၊ အိဂ်ျမာအ်နှင့် ကေယာစ်တို့ ဖြစ်ပါတယ်။ ပထမ ရာစုနှစ်မှာ ယနေ့ခေတ်မှာရှိနေကြသလို သတ်ကလီးဒ်မျိုး မရှိခဲ့ပေ။ ရာစုနှစ်ရဲ့အဆုံးပိုင်းမှာ အီမာမ် အဗူဟနီဖဟ်နှင့် အီမာမ်မာလစ်ကဲ တို့ မွေးဖွားခဲ့ကြပါသည်။ ထို့နောက် တဖြည်းဖြည်း အီမာမ်ကြီးတို့ ၏ လမ်းစဉ်သည် အသက်ဝင်လာခဲ့သည်။ ဒုတိယနှင့် တတိယ ရာစု နှစ် နောက်ပိုင်းမှာ အိဂ်ျသေဟားဒ်၏ တံခါး ထာဝရအတွက် ပိတ် သွားပြီလို့ ကြွေးကြော်ကြတဲ့ တချို့လူတွေ ပေါ်ပေါက်လာခဲ့တယ်။ ပညာရှင်တွေထဲက အုပ်စုတစ်စုက သတ်ကလီးဒ်ဘက်ကို လှည့် သွားကြတယ်။ နောက်အုပ်စုတစ်စုကတော့ စွန္နဟ်၏ နောက်လိုက်

ခြင်း အပေါ်မှာ ရပ်တည်နေလျက်ရှိပါတယ်။

ပထမအုပ်စု ပညာရှင်တွေက သူတို့ရဲ့ ကြိုးစားမှုတွေ၊ ပညာရေးနှင့် ကျင့်သုံးမှုဆိုင်ရာ ကြိုးစားမှု အားလုံးကို အီမာမ်ကြီး ၄ ပါး၏ အဆိုများနှင့် သူတို့၏ စာအုပ်များကို ရှင်းလင်းခြင်း၊ အကျဉ်းချုံးခြင်းတို့အတွက် သီးသန့်ပြုလိုက်ကြသည်။ သို့သော် သတ်ကလီးဒ်နှင့် ယှဉ်လျက်တွင် အုပ်စုတစ်စု အမြဲတမ်း ကွင်းပြင်တွင် မားမားမတ်မတ် ရပ်တည်လျက် ရှိခဲ့ကြပါသည်။ ၎င်းတို့၏ အသံသည် သတ်ကလီးဒ်လုပ်သူများနှင့် ယှဉ်လျှင် တိုးညင်းပေမယ့် ရှိတော့ရှိခဲ့ပေသည်။ အဗ္ဗာစီအုပ်ချုပ်မှု အဆုံးသတ်ပြီးတဲ့ နောက်ပိုင်းတွင် ဖေကဟ်တွင် လှေနံဓါးထစ် ရပ်တည်မှုများ ပေါ်ပေါက်လာခဲ့ပေသည်။ ဖေကဟ်ပညာရှင်များ၏ စာသားများကို ပဟေဠိများ၊ ရှုပ်ထွေးသောစာသားများ အဖြစ် ဖန်တီးရာတွင် တစ်ယောက်နှင့်တစ်ယောက် ပြိုင်ဆိုင်ကြပေတော့သည်။ ထို့နောက် ရှရီအသ်၏ အမိန့်ပညတ်ချက်များကို ဆော့ကစားကြလေတော့သည်။ နောက်ဆုံး ရလဒ်ဘာဖြစ်သလဲဆိုတော့ ဖေကဟ်စာအုပ်များသည် အကြံဉာဏ်များ၊ ဉာဏ်နီဉာဏ်နက်များ၊ ဟီလာ ပရိယာယ်များ၊ စိတ်ကူးယဉ်အတွေးများနှင့် ချည့်နဲ့သော ဖွင့်ဆိုမှုများဖြင့် ပြည့်နက်သွားခဲ့လေတော့သည်။

အခြေအနေ ဘယ်လောက်ဖြစ်သွားသလဲဆိုလျှင် ၎င်းတို့သည် လူတို့ရှေ့တွင် ထိုအရာအားလုံးကို ဤသည်ပင်လျှင် အစ္စလာမ်၏

အမိန့်ပညတ်ချက်ဖြစ်သည်ဟု ပြော၍ ချပြလေတော့သည်။ ထို့နောက် အီမာမ်ကြီး ၄ ပါး၏ ဖေကဟ်၊ ကုရ်အာန်၊ စွန္နဟ်နှင့် ဆွာဟာဗဟ်များ၏ အဆရ်တို့မှ ရယူထားသော ဖေကဟ်ရှိနေပါလျက် ယခုမည်သူပဲ အိဂျ်သေဟားဒ်လုပ်လုပ် သို့မဟုတ် ထိုအီမာမ်ကြီးတို့၏ စကား အထောက်အထားတွင် မည်သူပဲ ဆန်းစစ်လေ့လာသည်ဖြစ်စေ ထိုသူသည် ဖာစိက်ဖြစ်သည်ဟု လူတွေ သတ်မှတ်လာကြလေတော့သည်။ ဤသို့နှင့် ခေတ်ကာလတွေ တဖြည်းဖြည်း ကုန်ဆုံးသွားခဲ့သည်။ သတ်က်လီးဒ် လုပ်ရာတွင်လည်း အစွဲများ၊ တစ်သမတ်တည်း ရပ်တည်မှုများ၊ လျှော့နံ့ဓားထစ် ရပ်တည်မှုများသည်လည်း တိုးလာလေရာ နောက်ဆုံး အီမာမ်ကြီးများအား သတ်က်လီးဒ်လုပ်ခြင်းသည် ဝါဂျစ်ဗ်ပင် ဖြစ်သွားလေတော့သည်။ တချို့လူတွေက အိန္ဒိယ၊ ပါကိစ္စတန် တခွင်တွင် မသိနားမလည်ကြသော မွတ်စ်လင်မ်များကို သတ်က်လီးဒ်၏ လှောင်ချိုင့်ထဲတွင် ညှိမိသွားရန်အတွက် အပြင်းအထန် ကြိုးစားကြလေတော့သည်။ မိမိတို့ အီမာမ်တွေ၏ အဆိုတွေ၊ မဇ်ဟဗ်တွေဘက်ကို ဖိတ်ခေါ်လေတော့သည်။ မော်လာနာ အဗ်ဒွလ်ဟိုင်ယ်ဟာနဖီက မိမိ الرفع والتكميل ဆိုသည့် ကျမ်းထဲတွင် ရေးပါသည်။ မြောက်မြားစွာသော ဟာနဖီတို့သည် အခက်အလတ် မဆ်အလဟ်များတွင် ဟာနဖီဖြစ်၍ အူစူလ် အဓိက အရင်းအမြစ် မဆ်အလဟ်များတွင် မူရ်ဂျီအာဟ် ဒါမှမဟုတ် ဇိုင်ဒီဖြစ်ကြပေသည်။

အကီဒဟ် ယုံကြည်ချက်အားဖြင့် ဟနဖီတို့တွင် များစွာသော အကိုင်းအလတ်များ ရှိပေသည်။ တချို့က ရှီအဟ်ဖြစ်သည်။ တချို့က မုအ်သဇီလဟ်တဲ့။ ဂျမာအသေ့အစ္စလာမ်မီ၏ တချို့ ပုဂ္ဂိုလ်များသည် အီမာမ်အဗူဟနီဖာဟ်၏ နောက်လိုက်များ ဖြစ်သည်ဟု ကြွေးကျော်ကြပေသည်။ ဒေယိုဗန်ဒီတို့လည်း ကိုယ့်ကိုကိုယ်ဟနဖီဟု ကြွေးကျော်သည်။ ဗရေလဝီတို့သည်လည်း ကိုယ့်ကိုကိုယ် ဟနဖီဟု ကြွေးကျော်သည်။ အမှန် စင်စစ်မူကား အုပ်စုနှစ်စုကြားတွင် တစ်ယောက်ကို တစ်ယောက် လမ်းလွဲလမ်းမှား၊ လမ်းကြောင်များ ဖြစ်သည်ဟု ဆိုကြသည်အထိပင် အမုန်းပွား၊ အာဃာတတွေ ထားထားကြပေသည်။ ၎င်းတို့ထဲမှာပင် နောက်ထက် လူတန်းစား တစ်ရပ်ရှိပါသေးသည်။ ထိုလူတန်းစားမှာ လမ်းလွဲနေသော ဆူဖီများဖြစ်ပါသည်။ ဤအုပ်စုသည် وحدة الوجود ကို လက်ခံကြပေသည်။ وحدة الوجود ဆိုသည်မှာ လူသားမပြောလေနှင့် စကြဝဠာတစ်ခုလုံး ဤအထဲတွင် တိရစ္ဆာန်များလည်းပါရှိသည်။ ယင်းအရာများ အားလုံးသည် အလ္လာဟ်အရှင်မြတ်၏ ذات ဖြစ်ပါသည် ဆိုပြီးတော့ ယုံကြည်သော ယုံကြည်ချက်ဖြစ်ပါသည်။ ကာဒီယာနီလည်း ဟနဖီပါပဲ၊ ဘာကြောင့်လဲဆိုတော့ မိရ်ဇာဂိုလာမ် အဟ်မဒ် ကာဒီယာနီက မဇ်ဟဗ်အရ ဟနဖီဖြစ်ပါသည်။

(သဖ်စီရူလ်ကုရ်အာန်ကျမ်း တွဲ ၁ စာ ၂၄၊ ရှိုက်ခ်ယာကုဗ် အလီသူရာဗ်အဟ်မဒီ စီစဉ်သည်။ من الظلمات إلى النور ကျမ်း စာမျက်နှာ

၉၂၊ ၉၃)

ဆင့်(န်)(ဒ်)ပြည်နယ်က လိဝါရီမှာ အတုလုပ်ထားသော ကအ်ဗာဟ် တစ်ခုရှိပါသည်။ ယင်းကအ်ဗာဟ်ကို ပြုလုပ်ခဲ့ကြသူများ ထို့နောက် သင်္ချိုင်းများကို အမှန်အကန် ခိုင်ခိုင်မာမာ ပြုလုပ်ပြီး ကိုးကွယ်ကြသူများသည်ပင်လျှင် ဟနဖီများ ဖြစ်ကြသည်။ အိုရူစ်ပွဲတော်များတွင် ဒါရ်ဂါများထံ အခစားဝင်သော၊ ဘိုးဘွားဘီဘင် လက်ထက်ကတည်းက အမွေအဖြစ် ရရှိလာသော ဂိုဏ်းဆရာများ၊ ကဝါလီနှင့် ဗုံတီးသူများ အများစုသည်လည်း ဟနဖီပင် ဖြစ်ပေသည်။

သို့သော် ကျွန်ုပ်တို့၏ ကြိုးစားမှုသည် အမြဲတမ်း တစ်ခုတည်းပင် ဖြစ်ပေသည်။ ထိုအရာမှာ ကျမ်းတော်မြတ်ကုရ်အာန်နှင့် စွန္နဟ်တော်ကို စွဲမြဲစွာ ဆုပ်ကိုင်ထားဖို့ပင် ဖြစ်ပေသည်။ ယနေ့လည်း အဲဒီဘက်ကို ဖိတ်ခေါ်နေသည်။ လူပုဂ္ဂိုလ်တို့၏ အတွေး အခေါ်များနောက် မျက်ကန်းတုတ်ဆွဲ၍ နောက်လိုက် သတ်က်လီးဒ် လုပ်ခြင်းတို့ကနေ လူတို့၏ အတွေးတွေကို၊ စဉ်းစားဉာဏ်တွေကို ထိန်းသိမ်း ကာကွယ်ဖို့ ကျွန်ုပ်တို့ ကြိုးစားကြပါသည်။

ယခုလက်ရှိ စာအုပ်ကိုရေးရသည့် ရည်ရွယ်ချက်သည်လည်း လူပုဂ္ဂိုလ် တစ်ဦးတစ်ယောက်ကို အစွဲပြု သတ်က်လီးဒ်လုပ်၍ ဖြစ်ပေါ်လာမည့် ဆိုးကျိုးတွေကနေ လူတွေကို သတိပေးဖို့ရန် ဖြစ်ပါသည်။ ထို့နောက်လူတို့ကို ကီသာဗ်၊ စွန္နဟ်၊ ကုရ်အာန်နှင့် ဟဒီးစ်ဘက်ကို ပြန်လှည့်ရန် ဖိတ်ခေါ် ဖို့ ဖြစ်ပါသည်။

ဤစာအုပ်ဖြန့်ချီရာတွင် ပါဝင်ခဲ့သော ချစ်မိတ်ဆွေများ ပညာရှင်များ၊ စာအုပ်၏ ဟဒီးစ်တော်များ ထုတ်နှုတ်ပေး၍ သုတေသန လုပ်ပေးခဲ့သူများ၊ ဒုတိယတစ်ကြိမ် ပြန်လည်စစ်ဆေးပေးခဲ့သော လုပ်ငန်းစဉ်များအား ခက်ခက်ခဲခဲ ဆောင်ရွက်ပေးခဲ့သော သူများကို ကျွန်တော် အလွန်ပင် ကျေးဇူးတင်ပါသည်။

ထို့နောက် ၎င်းတို့ကို အလ္လာဟ်အရှင်မြတ် ဤလုပ်ငန်းအတွက် ကောင်းသောအစားချီးမြှင့်ပါစေလို့ ဒုအာပြုပါသည်။ အလ္လာဟ် အရှင်မြတ် ကျွန်ုပ်တို့အား ကုရ်အာန်နှင့် ဟဒီးစ် ကီသာဗုလ္လာဟ်နှင့် စွန္နဟ်သေရစူလ်အပေါ်တွင် အမြဲအသက် ရှင်နိုင်စွမ်းချီးမြှင့်တော်မူပါစေ။ ထိုအပေါ်တွင်ပင် သေနိုင်စွမ်းလည်းချီးမြှင့်တော်မူပါစေ။ ထို့အပြင် ကျွန်တော်မျိုးတို့ကို သူတော်စင်တို့၏ စာရင်းတွင် မှတ်သား၍ ရှင်ပြန်ထစေတော်မူပြီး ဖိရ်ဒေါင်စ်ဂျန္နသ်ထဲတွင် တမန်တော်မြတ် (صلى الله عليه وسلم)နှင့်အတူ နေထိုင်ခွင့်ချီးမြှင့်တော်မူပါစေ။ အာမီးန်။

**ရေးသားသူ ဟာဖိဇ်ဂျလ္လာလုဒ္ဒီးန် (ကာစိမီ)**

## ကုရ်အာန်၊ ဟဒီးစ်နှင့် ဆွဟာဗာဟ်သာဝကကြီးများ၏ မိန့်ဆိုချက်များ ရှုတောင့်တွင်

သတ်က်လီးဒ်ဆိုသည်မှာ တွေးခေါ်စဉ်းစား ဆင်ခြင်ခြင်းမရှိသော နောက်လိုက်မှုကို ခေါ်ပါတယ်။

≫ အလ္လာဟ်မာဟ်စူဗကီက ရေးသားတယ်။

التقليد أخذالقول من غيرمعرفة دليله

တစ်ဦးတစ်ယောက်ရဲ့ အဆိုအမိန့်ကို၊ သူ့ရဲ့အထောက်အထားကို မသိဘဲ လက်ခံခြင်းအား သတ်က်လီးဒ်ဟုခေါ်သည်။

شرح جمع الجوامع ကျမ်း၊ တွဲ ၂ စာ ၅၁။

≫ အလ္လာဟ်မာဟ် ဘဟ်ရုလ်အူလူးမ်က အမိန့်ရှိသည်။

التقليد، العمل بقول الغيرمن غير حجة

နဗီမဟုတ်သော လူတစ်ဦးဦး၏ အဆိုအမိန့်ကို အထောက်အထားမဲ့ ကျင့်သုံးခြင်းကို သတ်က်လီးဒ်ဟု ခေါ်သည်။

مسلم الثبوت ကျမ်း၊ နူးရ်ကရှူးရ် ပုံနှိပ်တိုက်မှ ထုတ်ဝေသည်။ စာမျက်နှာ ၆၂၄။

သို့ရာတွင် အိသ်သေဗအ်ဆိုသည်မှာ အထောက်အထားဖြင့် လိုက်သောကိစ္စကို ခေါ်ပေသည်။ ထိုကြောင့် အဗူအဗ်ဒွလ္လာဟ် အိဗ်နေ့ ခဝါးဇ်မန်ဒါးဒ် (မာလီကီ)က အမိန့်ရှိသည်။

التقليد، معناه في الشرع الرجوع إلى قول من لاحجة لقائله وذلك ممنوع

منه في الشريعة والاتباع ماثبت عليه حجة

ရှရီအသ်တွင် သတ်က်လီးဒ်ဟူသည်မှာ အထောက်အထား မဟုတ်သူ၏ စကားဘက်သို့ လှည့်ခြင်းဖြစ်သည်။ ရှရီအသ်က ထိုသို့ လှည့်ခြင်းကို တားမြစ်ထားပေသည်။ ၎င်းနောက် “အိသ်သေဗအ်” ဆိုသည်မှာ အထောက်အထားဖြင့် အတည်ဖြစ်သော အရာကို ခေါ်ပေသည်။

ဆိုလိုသည်မှာ သတ်က်လီးဒ်က အထောက်အထားမဲ့ ဖြစ်သည်။ အိသ်သေဗအ်က အထောက်အထားနဲ့ ဖြစ်သည်။ သဘောမှာ အာလင်မ်ပညာရှင်တစ်ဦး၏ အဆိုကို အထောက်အထားမဲ့ လက်ခံသူသည် မုကလ္လိီးဒ်ဖြစ်သည်။ ထို့နောက် မိမိ၏ နားလည်သဘောပေါက်မှုနှင့်အညီ၊ ထိုပုဂ္ဂိုလ်ထံမှ အထောက်အထား တောင်းဆိုရှာဖွေသူသည် متبع မူသ္သဗေအ်ဖြစ်သည်။

<< مغتنم الحصول ကျမ်းတွင် ဖာဒွေလ်ကန်ဒဟာရီက အမိန့်ရှိသည်။

التقليد: العمل بقول من ليس قوله من الحجج الشرعية بلا حجة فالرجوع إلى النبي وإلى الإجماع ليس منه

သတ်က်လီးဒ်ဆိုသည်မှာ အကြင်ပုဂ္ဂိုလ်၏ အဆိုအမိန့်အပေါ်တွင် အထောက်အထားမဲ့ ကျင့်သုံးခြင်းဖြစ်ပေသည်။ ယင်းပုဂ္ဂိုလ်၏ အဆိုအမိန့်သည် ရှရီအသ်တွင် အထောက်အထားမဟုတ်ပေ။ နဗီတမန်တော်နှင့် “အိဂ်ျမာအ်”တညီတညွတ်တည်း အဆိုအမိန့်ဘက်

ကို လှည့်ခြင်းက သတ်က်လီးဒ်မဟုတ်ပေ။

□ ရှင်းလင်းချက်။ ။ အောက်တွင်ဖော်ပြမည့် ဆွေးနွေးမှုတွင် ဤကဲ့သို့သော သတ်က်လီးဒ်ကို ဆိုလိုပေသည်။ ထိုသတ်က်လီးဒ် လုပ်သူများသည် မိမိတို့၏ ရှေးပုဂ္ဂိုလ်များ၊ ဘိုးဘေးများနှင့် အကြီးအကဲများ၏ အဆိုအမိန့်များ၊ လုပ်ရပ်များကို မိမိတို့၏ မဇ်ဟဗ်လမ်းစဉ်၊ မိမိတို့ ကျင့်သုံးအပ်သည့် အရာဟု မှတ်ယူထားကြပေသည်။ ထို့နောက် ယင်း၏ ဆန့်ကျင်ဘက်တွင် ကုရ်အာန်ကျမ်းတော်မြတ်နှင့် မှန်ကန်ခိုင်လုံသော စွန္နဟ်တော်၊ ဟဒီးစ်တော်များကို အတိအလင်း ငြင်းပစ်လိုက်ကြသည်။ သို့မဟုတ် မိမိတို့၏ ပျော့ညံ့သော ဖွင့်ဆိုမှု၏ နောက်ကွယ်တွင် ထိုကုရ်အာန်၊ ဟဒီးစ်များကို ပယ်ချပစ်လိုက်ကြသည်။ အကြင်သူသည် မသိဘဲ ပညာရှင်တို့ထံတွင် မေးမြန်း၍ မဆ်အလဟ်တစ်ခုအပေါ်တွင် ကျင့်သုံးသည်။ ထို့နောက် အခြားပညာရှင်တစ်ဦးထံတွင် ကုရ်အာန်ကျမ်းတော်မြတ်နှင့် မှန်ကန် ခိုင်လုံသော ဟဒီးစ်တော်၏ အသိပညာ ရရှိပြီးသည့်နောက်တွင် ပထမပုဂ္ဂိုလ်၏ အဆိုကို စွန့်လွှတ်ပစ်လိုက်၍ ကုရ်အာန်ကျမ်းတော်မြတ်နှင့် စွန္နဟ်အပေါ် အမလ်လုပ်ပါက ဤကဲ့သို့သော ပုဂ္ဂိုလ်သည် အထက်ပါ သတ်က်လီးဒ်တွင် မပါဝင်ပေ။

■ သတ်က်လီးဒ်ကို ထုချေထားသော အာယသ်တော်များ

**(၁)**

فَلَا وَرَبِّكَ لَا يُؤْمِنُونَ حَتَّىٰ يُحَكِّمُوكَ فِيمَا شَجَرَ بَيْنَهُمْ ثُمَّ لَا يَجِدُوا۟ فِىٓ أَنفُسِهِمْ
حَرَجًا مِّمَّا قَضَيْتَ وَيُسَلِّمُوا۟ تَسْلِيمًا

အသင့်အရှင်မြတ်ကို တိုင်တည်၍ ကျိန်ဆိုပါသည်။ ထိုပုဂ္ဂိုလ်တို့သည် မိမိတို့၏ အချင်းချင်းကြားတွင် ဖြစ်သော မသင့်မြတ်မှုများ၊ ကွဲလွဲမှုများ အားလုံးတွင် အသင်တမန်တော်ကို ခုံသမာဓိအဖြစ် တင်မြှောက်ပြီး အသင့် စီရင်ဆုံးဖြတ်ချက်နှင့် ပတ်သက်၍ မိမိတို့၏ နှလုံးသားတွင် တစ်နည်းတစ်ဖုံမျှ ကျပ်တည်းမှု မခံစားရသည့်အပြင် ထိုဆုံးဖြတ်ချက်အပေါ် အပြည့်အဝ လက်ခံနာယူ ကျေနပ်မှု မရှိသမျှကာလပတ်လုံး သူတို့သည် မုအ်မင်န် (သက်ဝင် ယုံကြည်သူများ) မဖြစ်နိုင်ကြပေ။ (စူရ်ရာဟ်နီစာအ် အာယသ်တော် ၆၅)

● ရှင်းလင်းချက်။ ။ ဤအာယသ်တော်က ဖော်ပြရည်ညွှန်းနေသည်မှာ စစ်မှန်မှန်ကန်သော အီမာန်သည် အကြင်ပုဂ္ဂိုလ်တွင်သာ ရှိပေသည်။ ထိုပုဂ္ဂိုလ်သည် အလ္လာဟ်နှင့် အလ္လာဟ်၏ရစူလ်ကို မိမိကိုယ်တိုင်အပေါ်တွင် စီရင်ဆုံးဖြတ်သူများအဖြစ် လက်ခံသည်။ စကားတွင်ရော၊ လုပ်ရပ်တွင်ရော၊ မည်သည့်ကိစ္စကိုပင်ဖြစ်စေ၊ ရွေးချယ်ခြင်းနှင့် စွန့်လွှတ်ခြင်းတွင်ရော၊ ချစ်ခင်ခြင်းတွင်ရော၊ မုန်းတီးခြင်းတွင်ရော အစရှိသည့် ကိစ္စရပ်တိုင်းတွင် အလ္လာဟ်နှင့် အလ္လာ့ဟ်ရစူလ်ကို မိမိကိုယ်တိုင်အပေါ်မှာ ဆုံးဖြတ်သူများ အဖြစ် ခံယူရပေမည်။ အလ္လာဟ်အရှင်မြတ်က ဤမျှပင် မိန့်ဆိုထားခြင်း မဟုတ်ပေ။

သို့သာမက တမန်တော်မြတ်ﷺ၏ အမိန့်တော်ကို မနာခံသူ၊ တမန်တော်မြတ်ﷺကို စီရင်ဆုံးဖြတ်သူအဖြစ် လက်မခံသူသည် အီမာန်မရှိပေဟုပင် အလ္လာဟ်အရှင်မြတ်က မိန့်တော်မူထားပေသည်။ ထို့ထက်ပို၍ တမန်တော်မြတ်ﷺ၏ အမိန့်စီရင်မှုကြောင့် နှလုံးသားတွင်ကျပ်တည်းမှု ခံစားရသူသည်လည်း မုအ်မင်န်မဟုတ်ပေဟု မိန့်တော်မူထားပြန်သေးသည်။ ထို့အပြင် အလ္လာဟ်အရှင်မြတ်သည် ၎င်းမုအ်မင်န်မဟုတ်ကြောင်းကို မိမိသည် ဖန်ဆင်းမွေးမြူတော်မူသော အရှင်ဖြစ်သည်ဟု တိုင်တည် ကျိန်ဆို၍ပင် မိန့်တော်မူထားပေသည်။ ထိုသို့ ကျိန်ဆိုခြင်းနှင့် အတူ တမန်တော်မြတ်ﷺကိုပါ အထူးပြု၍ထားပေသည်။ အကြောင်းမှာ အလ္လာဟ်အရှင်မြတ်က فَلَا وَرَبِّ ဟု မမိန့်ထားပေ။ သို့သာမက فَلَا وَرَبِّكَ ဟု မိန့်ထားပေသည်။ ၎င်းအာယသ်တော်တွင် ကျိန်ဆိုခြင်းပါသလို၊ ကျိန်ဆို၍ မိန့်ထားသော အရာသည်လည်း အလေးအနက် ဖြစ်သွားပေသည်။ အကြောင်းမှာ နှလုံးသားများတွင် မည်သည့်အရာများ ကိန်းအောင်းနေသည်ကို အရှင်မြတ်က သိတော်မူပေသည်။

ဆိုလိုသည်မှာ အနိုင်လိုမှု၊ အကူအညီရလိုမှု၊ အကူအညီကို ချစ်မြတ်နိုးမှု၊ အခြေအနေတိုင်းတွင် အမှန်တရားက မိမိနဲ့အတူ ရှိနေသည်ဖြစ်စေ၊ တခြားသူနှင့် အတူရှိနေသည်ဖြစ်စေ၊ နှလုံးသားများတွင် အနိုင်လိုချင်သော စိတ်သည် ကိန်းအောင်းနေသည်ကို

အလ္လာဟ် အရှင်မြတ်က သိတော်မူသောကြောင့်ဖြစ်ပေသည်။ ဤကိစ္စရပ်တွင် တမန်တော်မြတ်ﷺကိုလည်း အလ္လာဟ် အရှင်မြတ်က အရေးပေး၍ အထူး ဂရုပြုထားတော်မူပေသည်။ အကြောင်းမှာ တမန်တော်မြတ်ﷺကို မိမိ၏ စီရင်ဆုံးဖြတ်သူ အဖြစ်၊ တမန်တော်မြတ်ﷺ၏ ဆုံးဖြတ်ချက်များကို မိမိ၏ ဆုံးဖြတ်ချက်အဖြစ် သတ်မှတ်ထားတော်မူပေသည်။ ထို့ကြောင့် ဗန္ဒာကျေးကျွန်များ အပေါ်တွင် တမန်တော်မြတ်ﷺကို စီရင်ဆုံး ဖြတ်သူအဖြစ်၊ တမန်တော်မြတ်ﷺ၏ စီရင်ဆုံးဖြတ်မှုကို နာခံရန်၊ အီသွာအသ်လုပ်ရန် ဝါဂျစ်ဗ် သတ်မှတ်လိုက်ပေသည်။

ထို့ပြင် အီမာန်လက်ခံခြင်း တစ်ခုတည်းကို လက်မခံပေ။ သို့သာမက တမန်တော်မြတ်ﷺ၏ အမိန့်ပညတ်ချက်များကိုလည်း နာခံရမည်ဟု မိန့်တော်မူထားပေသည်။ အကြောင်းမှာ တမန်တော်မြတ်ﷺ၏ ဂုဏ်ရည်တော်နှင့်ပတ်သက်၍ အလ္လာဟ်အရှင်မြတ်က ဤသို့ မိန့်တော်မူထားပေသည်။ တမန်တော်ﷺသည် မိမိ၏ စိတ်သဘော၊ အလိုဆန္ဒနှင့် စကားပြောတော်မမူပေ။ ကိုယ်တော်မြတ် ပြောသမျှသည် ဝဟီမှလွဲ၍ တခြားမဟုတ်ပေ။ တမန်တော်ﷺ၏ အမိန့် စီရင်ဆုံးဖြတ်ချက်သည် အလ္လာဟ်အရှင်မြတ်၏ အမိန့်စီရင်ဆုံးဖြတ်ချက်ပင် ဖြစ်ပေသည်။ ထို့အပြင် တမန်တော်မြတ်ﷺ၏ အဆုံးအဖြတ်သည် အလ္လာဟ်အရှင်မြတ်၏ အဆုံးအဖြတ်ပင် ဖြစ်ပေ

သည်။ ထို့နောက် အလ္လာဟ်အရှင်မြတ်သည် အပေါ်ယံ ဆုံးဖြတ်ချက်ကိုသာလျှင် မိန့်၍ မထားပေ။ ယင်းဆုံးဖြတ်ချက်ကို နာခံလိုက်ရုံနဲ့ မွတ်စ်လင်မ်မဖြစ်သွားပေ။ သို့သာမက ၎င်း၏ နှလုံးသားတွင်လည်း ထိုဆုံးဖြတ်ချက်နှင့် ပတ်သက်၍ စိတ်ကျဉ်းမြောင်းမှု မရှိစေရ။ ယင်းဆုံးဖြတ်ချက်သည် သူ၏ စိတ်သဘော ဆန္ဒနှင့် ကိုက်ညီသည်ဖြစ်စေ၊ ဆန့်ကျင်သည်ဖြစ်စေ၊ အပြည့်အဝ စိတ်ကျေနပ်ရမည်ဟူသော စည်းကမ်းချက်ကိုလည်း သတ်မှတ်ထားတော်မူပေသည်။

ဟဇရသ်ဇိုဘိုင်ရ်ﷺနှင့် လူတစ်ဦးသည် လယ်ယာတွင် ရေသွင်းသော မြောင်းနှင့် ပတ်သက်၍ ပြဿနာဖြစ်ခဲ့သည်။ ဤကိစ္စအမှုသည် တမန်တော်မြတ်ﷺဆီသို့ ရောက်ခဲ့သည်။ တမန်တော်မြတ်ﷺက အခြေအနေကို အကဲခတ်၍ ဆုံးဖြတ်ပေးတော်မူခဲ့သည်။ တိုက်တိုက်ဆိုင်ဆိုင်ပင် ထိုဆုံးဖြတ်ချက်သည် ဟဇရသ် ဇိုဘိုင်းရ်၏ အကျိုးနှင့်ကိုက်ညီနေပေသည်။ ထိုအခါ ဆန့်ကျင်ဘက်တွင် ရှိသောသူက ဤသို့ပြောလိုက်သည်။ ဇိုဘိုင်းရ်သည် ကိုယ်တော်မြတ်၏ ညီအစ်ကိုဝမ်းကွဲဖြစ်သောကြောင့် ကိုယ်တော်က ဤသို့ ဆုံးဖြတ်ပေးတော်မူခြင်း ဖြစ်သည်။ ဤအပေါ်တွင် အထက်ဖော်ပြပါ အာယသ်တော် ကျရောက်လာခဲ့ပေသည်။ (ဗုခါရီကျမ်း၊ သဖ်စီရ် ကဏ္ဍ၊ စူရ်ရာဟ်နီစာအ်၊ فَلَا وَرَبِّكَ لَا يُؤْمِنُونَ ဟဒီးစ်နံပါတ် ၄၅၈၅)

¤ မှတ်ချက်။ ။ ဤအာယသ်တော်နှင့် ပတ်သက်၍ ကျရောက်လာသော အကြောင်းရင်းဗျူပ္ပတ်တွင် ယဟူဒီတစ်ယောက်နှင့် မွတ်စ်လင်မ်တစ်ယောက်၏ အဖြစ်အပျက်ကို များသောအားဖြင့် ပြောကြသည်။ ဖြစ်ပုံမှာ လူတစ်ဦးသည် တမန်တော်မြတ်ﷺ၏ ဆုံးဖြတ်ချက်ရှိထားပါလျက် ဟဇရသ်အုမရ်ؓထံ အဆုံးအဖြတ် သွားခံယူခဲ့သည်။ ထိုလုပ်ရပ်အပေါ်တွင် ဟဇရသ်အုမရ်ؓက ၎င်း မွတ်စ်လင်မ်၏ ဦးခေါင်းကို ဖြတ်တောက်ခဲ့သည်။ (အက်စ်ဘာ ဘုလ်နူဇူလ်၊ ဝါဟီဒီ၏ကျမ်း၊ စာမျက်နှာ ၃၃၃)

သို့သော် ဤအဖြစ်အပျက်သည် စနဒ်ကွင်းဆက်အရ မှားပေသည်။ ဟာဖိဇ် အိဗ်နုကဆီးရ်က ယင်းကို ရှင်းလင်းထားပေသည်။ အာယသ်တော်တွင် ဤသို့ ရည်ညွှန်း သတိပေးထားပေသည်။ တမန်တော်မြတ်(صلى الله عليه وسلم)၏ စကား၊ သို့မဟုတ် ဆုံးဖြတ်ချက်ကို ဆန့်ကျင်ဖို့ ဝေးလေစွ၊ နှလုံးသားထဲတွင် ကျပ်တည်းမှုဖြစ်ခြင်းပင်လျှင် အီမာန်နှင့် ဆန့်ကျင်ဘက်ဖြစ်ပေသည်။ ဤအာယသ်တော်သည် ဟဒီးစ်တော်ကို ငြင်းဆန်သူများအတွက်တော့ ဆင်ခြင်ဖွယ် ဖြစ်ပေသည်။ ထို့အတူ သတ်က်လီးဒ် လုပ်သူများ အတွက်လည်း စဉ်းစားဖွယ်ရာပင် ဖြစ်ပေသည်။ ၎င်းတို့သည် မိမိအီမာမ်၏ အဆိုနှင့် ဆန့်ကျင်ဘက်တွင် မှန်ကန်ခိုင်လုံသော ဟဒီးစ်တော်ကြောင့် စိတ်ကျဉ်းမြောင်းမှု ခံစားကြရုံသာမက အတိအလင်း ငြင်း

ပါငြင်းပစ်ကြပေသည်။ သို့မဟုတ် မမှန်မကန် လိုရာဆွဲ၍ အဓိပ္ပာယ် ဖွင့်ဆိုကာ မှန်ကန်သော၊ ခိုင်လုံသော ဆင့်ပြန်သူများကိုပင် ဒွအီးဖ် လို့ သတ်မှတ်ကာ၊ ကိုယ်တော်မြတ်၏ မှန်ကန်ခိုင်လုံသော ဟဒီးစ် တော်များကို ပယ်ချရန် ကြိုးစားကြပေသည်။ ယင်းအတွက် အထောက်အထား နမူနာတစ်ခုမဟုတ် မြောက်မြားစွာ ပေးနိုင်ပေ သည်။

**(၂)**

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوٓا۟ أَطِيعُوا۟ ٱللَّهَ وَأَطِيعُوا۟ ٱلرَّسُولَ وَأُو۟لِى ٱلْأَمْرِ مِنكُمْ ۖ فَإِن تَنَٰزَعْتُمْ فِى شَىْءٍ فَرُدُّوهُ إِلَى ٱللَّهِ وَٱلرَّسُولِ إِن كُنتُمْ تُؤْمِنُونَ بِٱللَّهِ وَٱلْيَوْمِ ٱلْءَاخِرِ ۚ ذَٰلِكَ خَيْرٌ وَأَحْسَنُ تَأْوِيلًا﴿٥٩﴾

4|59| အို- သက်ဝင်ယုံကြည်သူ အပေါင်းတို့၊ အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို လိုက်နာကြလေကုန်၊ ထိုနည်းတူစွာ အသင်တို့သည် ရစူလ်တမန်တော်၏ အမိန့်တော်များ ကိုလည်းကောင်း၊ မိမိတို့အနက်မှ အာဏာပိုင်များ၏ အမိန့်ကိုလည်း ကောင်း လိုက်နာကြလေကုန်။ တစ်ဖန် အကယ်၍ အသင်တို့သည် တစ်စုံတစ်ရာ ကိစ္စနှင့်စပ်လျဉ်း၍ အငြင်းပွားခဲ့ကြသော်၊ အသင်တို့ သည် အလ္လာဟ် အရှင်မြတ်ကိုလည်းကောင်း၊ နောက်ဆုံးနေ့ကို လည်းကောင်း သက်ဝင်ယုံကြည်ကြပါလျှင် ထိုကိစ္စကို အလ္လာဟ် အရှင်မြတ်၏ အထံတော်သို့လည်းကောင်း၊ ရစူလ်တမန်တော်၏ ထံသို့လည်းကောင်း၊ ပြန်လည်၍ ပို့သကြလေကုန်။ (ဤသို့ ပြုလုပ်

ခြင်း)သည်ကား (အသင်တို့အဖို့ ဤမျက်မှောက် လောကီဘဝ၌) အမွန်မြတ်ဆုံး ဖြစ်သည့်အပြင်၊ (နောင်တမလွန် ဘဝ၌လည်း) အကျိုး အာနိသင်အားဖြင့် အကောင်းဆုံးပင် ဖြစ်ချေသတည်း။

ဒီအာယသ်တော်ကို စဉ်းစားတွေးခေါ်ကြည့်ပါ။ အလ္လာဟ် အရှင်မြတ်နဲ့အတူ أَطِيعُواْ ဆိုတဲ့ စကားလုံးကို သုံးထားတယ်။ ရစူလ်လ္လလ္လာဟ်နဲ့ အတူလည်း أَطِيعُواْ ဆိုတဲ့ စကားလုံးကို သုံးထားတယ်။ သို့သော် وَأُوْلِى ٱلْأَمْرِ ဆိုတဲ့ စကားလုံးနဲ့ အတူ أَطِيعُواْ ဆိုတဲ့ စကားလုံးကို မသုံးထားဘူး။ ဒီကနေ ဘာထင်ထင်ရှားရှား သိရသလဲဆိုတော့ အလ္လာဟ်နဲ့အလ္လာ့ဟ်ရစူလ်ရဲ့အမိန့်နာခံခြင်းက မူရင်းပင်ကိုယ်အမိန့် ဖြစ်တယ်။ သို့သော်ပညာရှင်များနှင့် အာဏာရှင်များရဲ့ အမိန့်နာခံခြင်းကတော့ စည်းကမ်းချက်တချို့နဲ့ ဖြစ်ပါတယ်။ ဒီကနေနောက်တစ်ခု သိရတာက ကုရ်အာန်ကျမ်းတော်မြတ်ကဲ့သို့ပင် တမန်တော်မြတ်(صلى الله عليه وسلم)ရဲ့ ဟဒီးစ်တော်တွေကလည်း အစ္စလာမ့်ဥပဒေပြဋ္ဌာန်းရာ ရေသောက်မြစ်တစ်ခု သီးသန့်ဖြစ်ပါတယ်။ ဒီအာယသ်တော်ကနေ သိရသည်မှာ ကိစ္စရပ် တစ်စုံတစ်ရာမှာ အကယ်၍ အကွဲအလွဲ ဖြစ်ကြမယ်ဆိုလျှင် အလ္လာဟ်အရှင်မြတ်နဲ့ အလ္လာ့ဟ်ရစူလ်ဘက်ကို လှည့်ရမှာ ဖြစ်တယ်။ ဒါကြောင့် ဒီလမ်းညွှန်မှုက တမန်တော်မြတ်(صلى الله عليه وسلم) သက်ရှိထင်ရှား ရှိစဉ်အခါအတွက်သာလျှင် ကန့်သတ်ထားခြင်း မဟုတ်ပေ။ အကြောင်းမှာ အကွဲအလွဲတို့ ပေါ်ပေါက်ဖို့သည် တမန်တော်မြတ်( صلى الله عليه

ﷺ) ကွယ်လွန်ပြီးသည့် အခါတွင် ပို၍ပင် ဖြစ်နိုင်ပေသည်။ အာယသ်တော်ကလည်း ဤအမိန့်သည် အနာဂတ်ကို ဖော်ပြကြောင်း ကိုယ်တိုင် သက်သေဖြစ်ပေသည်။ အာယသ်တော်တွင်

فَرُدُّوهُ إِلَى ٱللَّهِ وَٱلرَّسُولِ

၏နောက်တွင် أُوْلِى ٱلْأَمْرِ ကိုဖော်ပြထားခြင်းမရှိပေ။ ဒါကဘာကို အထောက်အထား အထင်အရှား ဖြစ်စေသလဲဆိုတော့ أُوْلِى ٱلْأَمْرِ အုပ်ချုပ်သူများ၊ အာဏာရှင်များ၊ ပညာရှင်များသည် ဥပဒေ၏ အဓိက ထောက်တိုင်များမဟုတ်၊ ဒီးန်သာသနာတော်တွင် ၎င်းတို့ကို ဥပဒေပြု ပုဂ္ဂိုလ်များအဖြစ် သီးသန့် မှတ်ယူထားခြင်း မရှိပေ။ ဥပဒေပြု အထောက်အထားအဖြစ် အတည်တကျ မှတ်ယူခြင်း ခံရသူကတော့ အလ္လာဟ်အရှင်မြတ်နှင့် အလ္လာ့ဟ်ရစူလ်သာလျှင် ဖြစ်ပေသည်။

إِن كُنتُمْ تُؤْمِنُونَ بِٱللَّهِ وَٱلْيَوْمِ ٱلْءَاخِرِ

ဟု အလ္လာဟ်အရှင်မြတ်က မိန့်ကြားတော်မူလိုက်တယ်။ အချင်းချင်း အငြင်းပွား၊ ပြဿနာဖြစ်လာသည့်အခါတွင် အလ္လာဟ်အရှင်မြတ်နှင့် အလ္လာ့ဟ်ရစူလ်၊ ကုရ်အာန်နှင့် ဟဒီးစ်ဘက်ကို လှည့်ခြင်းသည် ရှရီအသ်၏ အစိတ်အပိုင်းလေး တစ်ခုမဟုတ်၊ အခွဲအခက်မဆ်အလဟ်လေး တစ်ခုမဟုတ်၊ သို့သာမက အီမာန်၏ စည်းကမ်းချက် တစ်ခု ဖြစ်ပေသည်။

ذَٰلِكَ خَيْرٌ وَأَحْسَنُ تَأْوِيلًا

ဟု မိန့်တော်မူ၍ ဤသို့ သတိပေးလိုက်သည်။ သတိထားကြကုန်။

အကွဲအလွဲတို့၏ အဖြေသည် ကုရ်အာန်၊ ဟဒီးစ်မှလွဲ၍ တခြားနေရာတွင် မရှာကြကုန်လင့်။ မဟုတ်လျှင် ကောင်းခြင်းမရှိပေ။ ၎င်း၏ ရလဒ်သည်လည်း ကောင်းလိမ့်မည် မဟုတ်ပေဟု မိန့်တော်မူခြင်း ဖြစ်ပေသည်။

**(၃)**

وَإِذَا قِيلَ لَهُمْ تَعَالَوْاْ إِلَىٰ مَآ أَنزَلَ ٱللَّهُ وَإِلَى ٱلرَّسُولِ رَأَيْتَ ٱلْمُنَٰفِقِينَ يَصُدُّونَ عَنكَ صُدُودًا

၎င်းပြင် (တစ်ဦးတစ်ယောက်သောသူသည်) ထိုသူတို့အား “အသင်တို့သည် (တရားစီရင်ဆုံးဖြတ်ရန်အလို့ငှာ) အလ္လာဟ်အရှင်မြတ် ထုတ်ပြန်ချမှတ်တော်မူသော တရားဓမ္မ (တည်းဟူသော ကုရ်အာန်ကျမ်းတော်မြတ်) ဘက်သို့လည်းကောင်း၊ ရစူလ်တမန်တော်မြတ် ထံသို့ လည်းကောင်း လာကြလေကုန်” ဟု ပြောဆိုသောအခါ၊ အသင်သည် ‘မုနာဖစ်က်’ အယောင်ဆောင် မွတ်စ်လင်မ်တို့အား မိမိထံ (လာရောက်ခြင်း)မှ ဖဲကြဉ်သွေရှောင်ကြသည်ကို တွေ့မြင်ရပေအံ့။ အကြောင်းမှာ မုအ်မင်န်တို့၏ ထူးခြားချက်ကို ဤသို့ မိန့်ကြားထားပေသည်။

إِنَّمَا كَانَ قَوْلَ ٱلْمُؤْمِنِينَ إِذَا دُعُوٓاْ إِلَى ٱللَّهِ وَرَسُولِهِۦ لِيَحْكُمَ بَيْنَهُمْ أَن يَقُولُواْ سَمِعْنَا وَأَطَعْنَا

၎င်းတို့ကို အလ္လာဟ်နှင့် အလ္လာဟ်ရစူလ်ဘက်ကို လာပါဟု အဆုံးဖြတ်ခံယူရန် ဖိတ်ခေါ်ခြင်းခံရသောအခါ မုအ်မင်န်တို့၏ စကား

သည် وَأَطَعْنَا سَمِعْنَا ဟုသာဖြစ်ပေသည်။ သူတို့သည် တမန်တော်မြတ်ﷺ ၏ ဖိတ်ခေါ်မှုမှုလည်း ကျောမခိုင်းပေ။ မျက်နှာမလွှဲပေ။ စီရင်ဆုံးဖြတ်မှုများအတွက်လည်း တခြား တတိယနေရာကို မရှာကြပေ။

**(၄)**

ٱتَّخَذُوٓاْ أَحْبَارَهُمْ وَرُهْبَٰنَهُمْ أَرْبَابًا مِّن دُونِ ٱللَّهِ وَٱلْمَسِيحَ ٱبْنَ مَرْيَمَ وَمَآ أُمِرُوٓاْ إِلَّا لِيَعْبُدُوٓاْ إِلَٰهًا وَٰحِدًا ۖ لَّآ إِلَٰهَ إِلَّا هُوَ ۚ سُبْحَٰنَهُۥ عَمَّا يُشْرِكُونَ

ထိုသူတို့သည် မိမိတို့၏ တရားဟော ဆရာတို့ကိုလည်းကောင်း၊ ဘုန်းကြီး ရဟန်းတို့ကိုလည်းကောင်း၊ 'မရ်ယမ်'၏ သားတော် 'မစီဟ်'ကိုလည်းကောင်း၊ အလ္လာဟ်အရှင်မြတ်အားစွန့်၍ (မိမိတို့၏) အရှင်သခင်များ ပြုလုပ်ထားခဲ့ကြလေသည်။ အမှန်စင်စစ်သော်ကား ထိုသူတို့သည် တစ်ဆူတည်းသော ကိုးကွယ်ရာ အရှင်မြတ်အားသာလျှင် ခဝပ်ကိုးကွယ်ရန် အမိန့်ပေးတော်မူခြင်းကို ခံခဲ့ကြရလေသည်။ ထို(တစ်ဆူတည်းသော)အရှင်မြတ်မှတစ်ပါး အခြား ခဝပ်ကိုးကွယ်ရာ အရှင်ဟူ၍ အလျှင်းမရှိပြီ။ ထိုအရှင်မြတ်သည် ၎င်းတို့တွဲဖက်နှိုင်းယှဉ်(ကိုးကွယ်)ကြသည်တို့မှ (လုံး၀) သန့်ရှင်းစင်ကြယ်တော်မူချေသတည်း။ (၉:၃၁)

ဤအာယသ်တော်၏ ဖွင့်ဆိုမှုကို ဟဇရသ် အဒီးအိဗ်နုဟာသင်မ် ؓထံမှ ဆင့်ပြန်လာရှိသော ဟဒီးစ်တော်တွင် ဖော်ပြထားပေသည်။

عن عدي بن حاتم قال أتيت النبي ﷺ وفي عنقي صليب من ذهب فقال: ياعدي

اطرح عنك هذا الوثن وسمعته يقرأ في سورة براء (ٱتَّخَذُوٓاْ أَحْبَارَهُمْ وَرُهْبَٰنَهُمْ أَرْبَابًا مِّن دُونِ ٱللَّهِ) فقال أما إنهم لم يكونوا يعبدونهم ولكنهم إذا أحلوا لهم شيئا استحلوه وإذا حرموا عليهم شيئا حرموه

ဟဇရသ် အဒီးအိဗ်နေ့ဟာသင်မ်ؓက အမိန့်ရှိသည်။ ကျွန်ုပ်က တမန်တော်မြတ်ﷺထံသို့ လာခဲ့သည်။ ကျွန်တော့်ရဲ့ လည်ကုပ်မှာ ရွှေနဲ့ လုပ်ထားတဲ့ လက်ဝါးကပ်တိုင် ဆွဲချိတ်ထားသည်။ အဲဒီအခါ တမန်တော်မြတ်ﷺက မိန့်တော်မူသည်။ အိုအဒီး၊ မိမိထံမှ ထိုရုပ်တုကို လွှင့်ပစ်လိုက်ပါ။ ကျွန်ုပ်က တမန်တော်မြတ်ﷺအား စူရာဟ် သောင်ဗဟ်၏ ဤအာယသ်တော် ဖတ်နေတာကိုလည်း ကြားခဲ့သည်။ “၎င်းတို့သည် မိမိတို့ ပညာရှင်များ၊ ဘုန်းကြီးရဟန်းများကို အလ္လာဟ်အရှင်မြတ်ကို စွန့်လွှတ်၍ မိမိတို့၏ အရှင်သခင်များဖြစ် သတ်မှတ်လိုက်ကြသည်။” ထိုအခါ တမန်တော်မြတ်ﷺက မိန့်တော်မူသည်။ “၎င်းတို့သည် ထိုပုဂ္ဂိုလ်များကို ကိုးကွယ်ခဲ့ကြသည် မဟုတ်။ သို့သော် ထိုပုဂ္ဂိုလ်တို့က တစ်စုံတစ်ခုနှင့် ပတ်သက်၍ ဟလားလ်ဟု သတ်မှတ်ခဲ့လျှင်၊ ၎င်းတို့ကလည်း ထိုအရာကို ဟလားလ်ဟု မှတ်ယူကြသည်။ တစ်စုံတစ်ခုနှင့် ပတ်သက်၍ ထိုပုဂ္ဂိုလ်တို့က ဟရာမ်ဟု သတ်မှတ်ကြလျှင် ၎င်းပုဂ္ဂိုလ်တို့က ဟရာမ်ဟု မှတ်ယူကြသည်။ (သရ်မီဇီရ်ကျမ်း ဟဒီးစ်နံပါတ် ၃၀၉၅)

**(၅)**

وَمَن كَانَ فِى هَٰذِهِۦٓ أَعْمَىٰ فَهُوَ فِى ٱلْءَاخِرَةِ أَعْمَىٰ وَأَضَلُّ سَبِيلًا

စင်စစ် မည်သူမဆို ဤပစ္စုပ္ပန်လောကီ ဘဝတွင် မျက်စိကန်းသူ ဖြစ်ခဲ့လျှင်၊ ထိုသူသည် နောင်တမလွန် ဘဝတွင်လည်း ကန်းသူသည် လည်းကောင်း၊ (မှန်ကန်သောလမ်းမှ) ပို၍ ဝေးသူသည်လည်း ကောင်း၊ ဖြစ်အံ့သတည်း။

• အီမာမ် အဟ်မဒ်ဗင်န်ဟမ်ဗန်က အမိန့်ရှိ ပါသည်။

ولاتقنعوا بالتقليد. فإن ذلك عمي في البصيرة

သတ်က်လီးဒ်အပေါ် ယုံစား၍ သတ်က်လီးဒ်နှင့် တင်းတိမ်၍ မနေကြနဲ့။ သတ်က်လီးဒ်သည် အမြင်ကို ကန်းစေသည်။ ဖော်ပြပါ အာယသ်တော်တွင် أَعۡمَىٰ ကန်းခြင်းဆိုသည်မှာ မျက်လုံးကန်းခြင်း မဟုတ်၊ သို့သာမက ဗဆီရသ် တွေးတောစဉ်းစားဆင်ခြင် နိုင်စွမ်း ကန်းခြင်း ဖြစ်ပေသည်။ အကြင်သူသည် ဒွန်နယာမှာ ဗဆီရသ် ကန်းခဲ့မည် ဆိုလျှင် ထိုသူသည် အာခေရာသ်တွင်လည်း ဗဆီရသ် ကန်းသည့်သူ ဖြစ်လိမ့်မည်။ ဆိုလိုသည်မှာ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတရား၊ ရက်ရောမှုတို့မှ လက်မဲ့ဖြစ်လိမ့်မည်။

(ရှအ်ရာနီ၏မီဇာနုလ်ကုဗ်ရာကျမ်း၊ စာ ၁၀)

**(၆)**

قُلْ هَٰذِهِۦ سَبِيلِىٓ أَدْعُوٓا۟ إِلَى ٱللَّهِ ۚ عَلَىٰ بَصِيرَةٍ أَنَا۠ وَمَنِ ٱتَّبَعَنِى ۖ وَسُبْحَٰنَ ٱللَّهِ وَمَآ أَنَا۠ مِنَ ٱلْمُشْرِكِينَ

(အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား၍သို့) ပြောကြား ပါလေ။ ဤသည်သာလျှင် ငါ၏ လမ်းစဉ်ဖြစ်ပေသည်။ ငါသည် (လူ

ခပ်သိမ်းတို့အား) အလ္လာဟ် အရှင်မြတ်ဘက်သို့ ဖိတ်ခေါ်သည်။ ငါနှင့်တကွ၊ ငါ၏ နောက်လိုက်တို့သည်လည်း အလွန်ထင်ရှား ခိုင်လုံသော သက်သေသာဓက အပေါ်၌ တည်ရှိနေကြပေသည်။ ထို့ပြင် အလ္လာဟ် အရှင်မြတ်သည် (ချို့တဲ့မှု အပေါင်းတို့မှ) သန့်ရှင်းစင်ကြယ်တော်မူသော အရှင်ဖြစ်တော်မူပေသည်။ ထိုမှတစ်ပါး ငါသည် တစ်စုံတစ်ရာကို အလ္လာဟ်အရှင်မြတ်နှင့် တွဲဖက်နိူင်းယှဉ်ကိုးကွယ်သော မုရှ်ရစ်က်တို့အနက်မှ မဟုတ်ချေ။ (၁၂:၁၀၈)

သတ်က်လီးဒ်သည် ဗဆွီရသ်နှင့် ဆန့်ကျင်ဘက် ဖြစ်ပေသည်။ ဆန့်ကျင်ဘက် အရာနှစ်ခုသည် ဆုံရန်မဖြစ်နိုင်ပေ။ လူတစ်ဦးတည်းက မူကလ္လီးဒ်လည်းဖြစ်မည်။ ဗဆွီရသ်လည်း ရှိတဲ့သူဖြစ်မည်ဆိုတာ မဖြစ်နိုင်ပါ။ အကြောင်းမှာ ဗဆွီရသ်၏ အဓိပ္ပာယ်မှာ အထောက်အထားဖြစ်သည်။ (သတ်က်လီးဒ်ဆိုသည်မှာ အထောက်အထားမဲ့ လိုက်ခြင်းဖြစ်သည်။)

သဖ်စီရ်မဒါရစ်က်ကျမ်းတွင် လာရှိသည်။

أدعو إلى دينه مع حجة واضحة غير عمياء أدعو إلى الله على بصيرة

ဆိုလိုသည်မှာ ကျွန်ုပ်သည် အသင်တို့ကို အလ္လာဟ်အရှင်မြတ်၏ သာသနာဘက်ကို အထောက်အထားမဲ့ ဖိတ်ခေါ်နေခြင်းမဟုတ်။ ငါ၏ ကြွေးကျော်မှုများတွင် အမြင်ကန်းခြင်း၊ ဗဆွီရသ် ကန်းခြင်း မရှိပေ။ ဤမှသိရသည်မှာ ဗဆွီရသ်၏ အဓိပ္ပာယ်သည် အထောက်အထားဖြစ်ပေသည်။

(သဖ်စီးရ်ဂျလာလိုင်ကျမ်းကို ကြည့်ပါ။ စာမျက်နှာ ၁၉၃)

အဘိဓာန်အရလည်း သိပြီးသည့် အတိုင်းပင် သတ်ကလီးဒ်တွင် မည်သည့် အထောက်အထားမျှ မရှိပေ။ ထိုအတွက်ကြောင့် သတ်ကလီးဒ်သည် ဗဆွီရသ်နှင့် ဆန့်ကျင်ဘက်ဖြစ်ကြောင်း ထင်ရှားလှပေသည်။ ကုရ်အာန်ကျမ်းတော်မြတ်တွင် ဗဆွီရသ်ကို အွမ္မသ်ထုတစ်ရပ်လုံးအတွက် အရေးကြီးသည်ဟု သတ်မှတ်ထားပေသည်။ တမန်တော်မြတ်ﷺအတွက်လည်း အရေးကြီးကြောင်း သတ်မှတ်ထားပေသည်။

ဖော်ပြပါ အာယသ်တော်၏ ဘာသာပြန်ကို နောက်တစ်ခါ ထပ်၍ ရှုစားကြလေကုန်။

"အသင်ပြောလိုက်ပါ။ ဤသည်ငါ၏ လမ်းဖြစ်သည်။ ငါသည် အလ္လာဟ် အရှင်မြတ်ဘက်သို့ ဗဆွီရသ် အပြည့်ဖြင့် ဖိတ်ခေါ်ပေသည်။ ငါနှင့်ငါ၏ လမ်းစဉ်ကို လိုက်ကြသူ အပေါင်းတို့ ဖြစ်သည်။ ငါသည် မည်သူ့၏ သတ်ကလီးဒ်ကိုမှ လုပ်သည်မဟုတ်။ ငါ၏ အွမ္မသ်သည်လည်း မည်သူ့ သတ်ကလီးဒ်မှ လုပ်သည်မဟုတ်။ သို့သာမက ငါတို့အားလုံးသည် ဗဆွီရသ် အထောက်အထား အထင်အရှားပေါ်တွင် တည်ရှိကြပေသည်။"

**(၇)**

هُوَ ٱلَّذِى بَعَثَ فِى ٱلْأُمِّيِّنَ رَسُولًا مِّنْهُمْ يَتْلُوا۟ عَلَيْهِمْ ءَايَٰتِهِۦ وَيُزَكِّيهِمْ وَيُعَلِّمُهُمُ ٱلْكِتَٰبَ وَٱلْحِكْمَةَ وَإِن كَانُوا۟ مِن قَبْلُ لَفِى ضَلَٰلٍ مُّبِينٍ

ထိုအရှင်မြတ်သည်ပင် စာပေမတတ်သော သူတို့ထံ ၎င်းတို့အနက်မှပင် ရစူလ်တမန်တော်တစ်ပါးကို စေလွှတ်တော်မူခဲ့၏။ ထိုရစူလ်တမန်တော်သည် ၎င်းတို့ရှေ့ဝယ် ထိုအရှင်မြတ်၏ အာယတ်တော်များကို ဖတ်ကြားလေ၏။ ထို့ပြင် ၎င်းတို့အား စင်ကြယ်သန့်ရှင်းအောင် ပြုလုပ်လေ၏။ ထိုမှတစ်ပါး ထိုသူတို့အား ကျမ်းဂန်ကိုလည်းကောင်း၊ ဉာဏ်ပညာကိုလည်းကောင်း၊ သင်ကြားပို့ချလေ၏။ စင်စစ်မှာမူကား ၎င်းတို့သည် ယခင်က ထင်ရှားစွာသော လမ်းမှားမှု၌ပင် ရှိနေခဲ့ကြကုန်၏။ (စူရဟ် ၆၂၊ စူရဟ်ဂျုမ္မအဟ်၊ အာယသ် ၂)

တမန်တော်မြတ်ﷺက ထိုစာပေ မတတ်ကျွမ်းသော သူများထံကို စေလွှတ်ခြင်းခံခဲ့ရသည်။ ထိုစာပေမတတ်သောသူများက ကုရ်အာန်ကျမ်းတော်မြတ်နှင့် ဟဒီးစ်ကို နားလည်ခဲ့ကြသည်။ သူတို့ နားမလည်တဲ့အခါမှာ မေးမြန်းစူးစမ်းပြီးတော့ နားလည်အောင် လုပ်ခဲ့ကြသည်။

ဒီနေရာမှာ သတ်က်လီးဒ်လုပ်တဲ့ သူတွေက ဘာပြောသလဲဆိုတော့ “ဂျာဟိလ်ကို မဆိုထားနှင့်၊ ပညာရှိသောပုဂ္ဂိုလ် အာလင်မ်ပင်လျှင် ကုရ်အာန်၊ ဟဒီးစ်ကို နားမလည်နိုင်ဘူးတဲ့”။

ဤအပြောအဆိုအားဖြင့် အွမ္မသ်ထု တစ်ရပ်လုံး ပေါင်းပြီးတော့တောင် နားလည်ဖို့ မဖြစ်နိုင်လောက်အောင် အလ္လာ့ဟ် တမန်တော်ရဲ့ စကားက ခက်ခဲတယ်၊ ရှုပ်ထွေးတယ်ဆိုတဲ့ သဘော အတိအလင်း

သက်ရောက်သွားတယ်။ သို့သော်လည်း အီမာမ်ကြီး ၄ ပါးရဲ့စကား ကတော့ အင်မတန်လွယ်ကူ ရှင်းလင်း ထင်ရှားတယ်ဟုတ်စ။ ယင်း စကားကို လူတိုင်းနားလည်နိုင်တယ်ပေါ့။

တစ်နည်းပြောရလျှင် အလ္လာ့ဟ်တမန်တော်ရဲ့ စကားများသည် ပဟေဠိများဖြစ်သည်။ ယင်းပဟေဠိ အရှုပ်အထွေးများကို နားလည် နိုင်ရန်အတွက် လူသန်းပေါင်းများစွာအထဲမှ လူ ၄ ဦးသာပေါ်ခဲ့သည် ဟု အဓိပ္ပာယ်သက်ရောက်နေပါသည်။

အမှန်ဆိုလျှင် အီမာမ်အဗူဟနီဖာကိုယ်တိုင်က မဆ်အလဟ် ၁၄ ခုမှာ မည်သို့မျှ မဆုံးဖြတ်ဘဲ ရပ်တန့်ခဲ့သည်။ ကြားနေခဲ့သည်။ ဤကဲ့သို့ပင် رد المحتار ကျမ်းတွင် လာရှိထားပါသည်။

**(၈)**

ٱتَّبِعُواْ مَآ أُنزِلَ إِلَيۡكُم مِّن رَّبِّكُمۡ وَلَا تَتَّبِعُواْ مِن دُونِهِۦٓ أَوۡلِيَآءَ

အသင်တို့သည် မိမိတို့၏ အရှင်မြတ်ထံတော်မှ မိမိတို့ထံကျ ရောက်လာသော ဒေသနာတော်ကိုသာ လိုက်နာကြလေကုန်။ ၎င်း ပြင် အသင်တို့သည် ထိုအရှင်မြတ်မှတစ်ပါး အခြား မိတ်ဆွေများ (၏ပြောစကားများ)ကို မလိုက်နာကြကုန်လင့်။

(စူရာဟ် ၇၊ စူရဟ်အအ်ရားဖ်၊ အာယသ်တော် ၃)

ကုရ်အာန်၊ ဟဒီးစ်နှင့်ဆန့်ကျင်၍ အီမာမ်တစ်ဦးဦး၊ မုဂ်ျသဟိဒ် တစ်ဦးဦး၊ အာလင်မ်၊ ပိရ်၊ ဖကီးရ် အစရှိသည့် မည်သူ့နောက်မျှ မလိုက်လေနှင့်။ ဆိုလိုသည်မှာ ကုရ်အာန် ဟဒီးစ်နှင့် ယှဉ်လာရင်

မည်သူ၏ အမြင်ဖြစ်စေ၊ ယူဆထင်မြင်ချက်ဖြစ်စေ၊ ယင်းအပေါ် မလျှောက်လှမ်းကြကုန်နှင့်။ အသီးသီးဂိုဏ်းများကွဲ၍ အစ္စလာမ် သာသနာတော်ကို မိမိတို့လက်ထဲမှ အလွတ်မခံကြလေနှင့်။

**(၉)**

وَإِذَا قِيلَ لَهُمُ ٱتَّبِعُوا۟ مَآ أَنزَلَ ٱللَّهُ قَالُوا۟ بَلْ نَتَّبِعُ مَا وَجَدْنَا عَلَيْهِ ءَابَآءَنَآ ۚ أَوَلَوْ كَانَ ٱلشَّيْطَٰنُ يَدْعُوهُمْ إِلَىٰ عَذَابِ ٱلسَّعِيرِ

ထိုမှတစ်ပါး ၎င်းတို့အား၊ အသင်တို့သည်အလ္လာဟ်အရှင်မြတ် ချပေးသနားတော်မူသည်ကို လိုက်နာကြလေကုန်ဟု ပြောကြားခဲ့ သည်ရှိသော်၊ ၎င်းတို့က ထိုသို့အလျှင်းမဟုတ်၊ စင်စစ်မှာမူကား ကျွန်ုပ်တို့သည် မိမိတို့အဖ၊ ဘိုး၊ ဘေးတို့ လိုက်နာခဲ့ကြသည်ကို တွေ့ရှိခဲ့ကြရသော လမ်းစဉ်ကိုသာ ကျွန်ုပ်တို့ လိုက်နာကြမည်ဟု ပြောဆိုဖြေကြားခဲ့ကြကုန်၏။ ထိုအဖ၊ဘိုး၊ ဘေးတို့အား 'ရှိုင်တွာန်' မိစ္ဆာကောင်သည် ငရဲဘုံ၏ပြစ်ဒဏ်ကို ဖိတ်ခေါ်လျက်ရှိငြားအံ့လည်း (၎င်းတို့သည် ထိုအဖ၊ ဘိုး၊ ဘေးတို့၏ လမ်းစဉ်ကို လိုက်နာကြဦး မည်လော။) (စူရဟ် ၂၁၊ စူရဟ်လွှက်မာန်၊ အာယသ် ၂၁)

ဤအာယသ်တော်က ညွှန်ပြနေသည်မှာ ကုရ်အာန်၊ ဟဒီးစ်နှင့် ဆန့်ကျင်၍လာသော လမ်းစဉ်ကို အထောက်အထားမဲ့ ရွေးချယ် ခြင်းသည် ရှိုင်သွာန်၏ လမ်းကို ရွေးချယ်ခြင်းပင် ဖြစ်သည်ဟူ၍ ဖြစ်သည်။ မိမိတို့ ဘိုးဘေးတို့၏ လမ်းစဉ်ကို လိုက်ကြသော သတ်ကလီးဒ်လုပ်သူများထံတွင် မိမိတို့လမ်းစဉ်နှင့် ပတ်သက်၍

အလ္လာဟ် အရှင်မြတ်ဘက်တော်မှ မည်သည့် အထောက်အထား မှမရှိ၊ ဘိုး ဘေးတို့နောက် မျက်စိမှိတ်၍ မျက်ကန်း တုတ်ဆွဲလိုက်ခြင်းမှလွဲ၍ တခြား မည်သည့်အထောက်အထားမှ မရှိသည့်အတွက် ၎င်းတို့ ဘိုးဘေးများ၏ အထင်အမြင်နှင့် လျှောက်လှမ်းခဲ့သော လမ်းစဉ်သည် အမှန်စင်စစ်တွင် ရှိုင်သွာန်၏ ဖိတ်ခေါ်မှုကို နာခံသောအားဖြင့် လျှောက်ခဲ့ကြသော လမ်းစဉ်သာ ဖြစ်ကြောင်း အလ္လာဟ် အရှင်မြတ်က ဆုံးဖြတ်ပေးလိုက်သည်။ ၎င်းတို့၏ ခေါင်းဆောင် သည် ရှိုင်သွာန်ပင်ဖြစ်ပေသည်။ ထိုရှိုင်သွာန်သည် ဂျဟန္နမ်၏ အဇားဗ်ဘက်သို့ ဖိတ်ခေါ်နေပေသည်။

ဤရှင်းလင်းချက်ကို ကြည့်ခြင်းအားဖြင့် သိရသည်မှာ ကုရ်အာန်၊ ဟဒီးစ်နှင့် ဆန့်ကျင်၍ ရှိသော အဆို၊ လုပ်ရပ်၊ ယုံကြည်ချက်၊ အတွေးအခေါ်၊ လမ်းစဉ်များ၊ စသည့် အားလုံးသည် ရှိုင်သွာန်၏ ဖိတ်ခေါ်မှုများသာလျှင် ဖြစ်ပေသည်။ သို့သော် ဝမ်းနည်းဖွယ်ရာပင်။ ယနေ့လူတို့၏ အခြေအနေမှာ မည်သို့ရှိနေသနည်း။ လူအများစု၏ အကီဒဟ်ယုံကြည်မှုသည် မဇ်ဟဗ် ၄ ခု သာလျှင် အမှန်ဖြစ်ပေသည်၊ ထိုမဇ်ဟဗ် ၄ ခုအနက် မဇ်ဟဗ်တစ်ခုခုအပေါ်တွင် လျှောက်လှမ်းရန်အရေးကြီးပေသည်၊ ၎င်းတို့၏ မဆ်အလဟ်များသည် ကုရ်အာန်၊ ဟဒီးစ်နှင့် မည်မျှပင် ဆန့်ကျင်နေပါစေ၊ ထိုအပေါ်သာလျှင် လျှောက်လှမ်းရန် အရေးကြီးသည်ဟု လူတွေ မှတ်ယူလာကြပေပြီ။

□ စောဒကတစ်ခုနှင့် ယင်း၏အဖြေ

ဤအာယသ်တော်နှင့် ဤကဲ့သို့သော အာယသ်တော်များ အားလုံးသည် ကာဖိရ်များ၊ မုရှ်ရစ်က်များ၏ မျက်ကန်းတုတ်ဆွဲ သတ်ကလီးဒ်များနှင့် ပတ်သက်၍ လာခဲ့ခြင်းဖြစ်သည်ဟု မည်သူမှ မထင်ပါနှင့်။ ကျွန်ုပ်တို့ကတော့ မွတ်စ်လင်မ်ဖြစ်သည်၊ ကုရ်အာန်ကျမ်းတော်မြတ်က ကာဖိရ်တွေနဲ့ပတ်သက်ပြီးတော့ပဲ ပြောထားတာ ဖြစ်သည်ဟု လုံးဝမထင်ပါနှင့်။ ဤအာယသ်တော်နှင့် ဤအာယသ်တော်များကဲ့သို့ပင် ကျန်အာယသ်တော်များ အားလုံးသည် ကျွန်ုပ်တို့နှင့် မည်သို့ ပတ်သက်နေသနည်းဟု စောဒကမတက်ပါနှင့်။
အကြောင်းမှာ ဥပဒေသတစ်ခု ရှိသည်။

العبرة بعموم اللفظ لابخصوص السبب:

အမှန်တကယ် အတည်ပြုရသည်မှာ စကားလုံး၏ ခြုံငုံ အဓိပ္ပာယ်ဖြစ်သည်။ စကားလုံးဖြစ်ပေါ်လာရသည့် အကြောင်းအရင်းက အဓိက မကျပေ။

ဒီဥပဒေသမှ သိရသည်မှာ အကယ်၍ မုသားပြောဆိုခြင်းသည် ကာဖိရ်တို့အတွက် တားမြစ်ထားသောအရာ ဖြစ်လျှင် ထိုအရာသည် ကျွန်ုပ်တို့အတွက်လည်း တားမြစ်ထားသော အရာပင် ဖြစ်သည်။ ရှိရ်က်လုပ်ခြင်း၊ ကုဖ်ရ်သွေဖည်ခြင်း၊ ကတိချိုးဖောက်ခြင်း၊ အလွဲသုံးစားပြုလုပ်ခြင်း၊ ခိုးဝှက်ခြင်း၊ မကောင်းမှု ကျူးလွန်

ခြင်း၊ အစရှိသည့် လုပ်ငန်းစဉ်အားလုံးသည် ၎င်းတို့ အတွက် တားမြစ်ထားသောအရာ ဖြစ်လျှင် ကျွန်ုပ်တို့အတွက်လည်း တား မြစ်ခြင်းခံထားရသောအရာ (ဟရာမ်) ပင်ဖြစ်ပေသည်။

ဤကဲ့သို့ပင် မိမိတို့၏ ဘိုးဘေးများ၏ ယုံကြည်ချက်များ၊ အဆိုများ၊ လုပ်ရပ်များကို သာသနာ၏ အမည်တပ်၍ တင်ဆက် ကြသော သူများကို အလ္လာဟ်အရှင်မြတ်က ထိုသို့ မလုပ်ကြရန် တားမြစ်တော်မူထားသည်။ အလ္လာဟ်အရှင်မြတ်၏ အထောက် အထားနှင့်အညီ ကျင့်သုံးရန် အမိန့်ပေးထားသည်။ အလ္လာဟ် အရှင်မြတ်ဘက်က လာသော အတိုင်းသာ ကျင့်သုံးကြကုန်ဟု အရှင်မြတ်က အမိန့်ပေးသည်။

ဤကဲ့သို့ပင် အာယသ်တော်၏ ရှုထောင့်အောက်တွင် ကျွန်ုပ် တို့သည်လည်း မိမိတို့၏ အကြီးအကဲများ၊ အီမာမ်များ၊ ဦးဆောင် ဦးရွက်ပြုသူများ၏ အဆိုများကို အထောက်အထားမဲ့ မကျင့်သုံး ကြရန် အရေးကြီးပေသည်။ ကုရ်အာန် ကျမ်းတော်မြတ်နှင့် ဟဒီးစ်တော်အပေါ်တွင်သာလျှင် ကျင့်သုံးရန် အရေးကြီးပေသည်။

**(၁၀)**

وَإِذَا قِيلَ لَهُمُ ٱتَّبِعُوا۟ مَآ أَنزَلَ ٱللَّهُ قَالُوا۟ بَلْ نَتَّبِعُ مَآ أَلْفَيْنَا عَلَيْهِ ءَابَآءَنَآ ۗ أَوَلَوْ كَانَ ءَابَآؤُهُمْ لَا يَعْقِلُونَ شَيْـًٔا وَلَا يَهْتَدُونَ

၎င်းပြင် (အမြော်အမြင်မရှိသော) ထိုသူတို့ကို တစ်ဦးတစ် ယောက်က (ဟယ်-အချင်းတို့) အသင်တို့သည် အလ္လာဟ် အရှင်

မြတ် ထုတ်ပြန်ချမှတ် ပေးသနားတော်မူသော တရားဒေသနာများ ကို လိုက်နာကြပါကုန်ဟု ပြောဆိုပါလျှင် ယင်းသူတို့က ပြောဆို ကြသည်မှာ ထိုသို့အလျင်းမဟုတ်၊ စင်စစ်မှာကား အကြင် တရား လမ်းစဉ်ပေါ်၌ အကျွန်ုပ်တို့သည် မိမိတို့၏ ဘိုး၊ ဘေး၊ ဘီ၊ ဘင် များကို တွေ့ရ၏။ ထိုတရားလမ်းစဉ်ကိုသာလျှင် ကျွန်ုပ်တို့သည် လိုက်နာကြအံ့ဟု တုံ့ပြန်ပြောဆိုကြကုန်သည်။ ၎င်းတို့၏ ဘိုး၊ ဘေး၊ ဘီ၊ ဘင်တို့သည် တစ်စုံတစ်ရာကိုမျှ မဆင်ခြင်နိုင်ကြသည့် ပြင်၊ တရားလမ်းမှန်ကို မရရှိကြသော်လည်း (၎င်းတို့သည် ထိုသို့ သော ဘိုး၊ ဘေးတို့၏ လမ်းစဉ်ကိုပင် လိုက်နာကြမည်လော)။

(စူရဟ် ၂၊ စူရဟ်ဗကရာ၊ အာယသ်တော် ၁၇၀)

ဒီအာယသ်တော်မှာ သတ်က်လီးဒ်လုပ်ခြင်းသည် မှားယွင်း ကြောင်း ပုံစံနှစ်မျိုးနဲ့ ညွှန်ပြထားပါသည်။ ပထမပုံစံ တစ်မျိုးက တော့ သတ်က်လီးဒ်လုပ်သူကို မေးမြန်းရမည်။ အသင် သတ်က် လီးဒ်လုပ်ပြီး နောက်လိုက်နေတဲ့ ပုဂ္ဂိုလ်က အသင်ရဲ့ အသိအရ သူသည် အမှန်တရားပေါ်မှာ ရှိသလား၊ မရှိဘူးလား။ အကယ်၍ မိမိနောက်လိုက်မှုပြုနေတဲ့ ဦးဆောင်ဦးရွက်ပုဂ္ဂိုလ်က အမှန် တရားအပေါ်မှာ ရှိနေသလားဆိုတာကို မိမိက မသိဘူးဆိုလျှင် အဲဒီသူက မှားယွင်းနိုင်ပါလျက်နဲ့ ဘာကြောင့်သူ့နောက်ကို လိုက် တာလဲ။

အကယ်၍ သူကသိမယ်။ အမှန်တရားအပေါ်မှာ ရှိတယ်

ဆိုတာကို သူသိတယ်ဆိုလျှင်၊ ဘယ်အထောက်အထားနဲ့ သိတာလဲ။ အကယ်၍ သူက တခြားသူပြောလို့သိတာ တခြားသူကို သတ်က်လီးဒ်လုပ်ပြီးမှ သိတာဆိုလျှင်၊ ဒီနေရာမှာလည်း အထက်ကမေးခွန်းပဲ ပြန်ရောက်လာပါတယ်။ သူ့ကို ထပ်မေးရမယ်။ သူများပြောလို့ ဒီပုဂ္ဂိုလ်မှန်တယ်ဆိုတာကို အသင် သိရတယ်။ သူများကို သတ်က်လီးဒ်လုပ်ပြီးတော့မှ ဒီပုဂ္ဂိုလ် မှန်တယ်ဆိုတာကို အသင် သိတယ်ဆိုတော့ အသင် သတ်က်လီးဒ်လုပ်နေတဲ့ပုဂ္ဂိုလ်ကရော အသင်ရဲ့ အမြင်မှာ မှန်လား၊ မမှန်ဘူးလား။ ဒီမေးခွန်း ထပ်ရောက်လာပြန်ပါပြီ။

ဒုတိယတစ်ချက်အနေနဲ့ သတ်က်လီးဒ်လုပ်တဲ့သူကို ဒီလို မေးရမယ်။ အသင် သတ်က်လီးဒ်လုပ်နေတဲ့ သူက သူကိုယ်တိုင်လည်း သတ်က်လီးဒ်လုပ်နေတယ်ဆိုရင် သူနဲ့အသင်နဲ့က အဆင့်အတန်းတူတူဖြစ်သွားပြီပေါ့။ အဲဒီတော့ ဘယ်သူက ပိုသာမြတ်သလဲ၊ ဘယ်သူရဲ့ သတ်က်လီးဒ်ကို လုပ်ထိုက်သလဲဆိုတာ ဘယ်အချက်အပေါ်မှာ မူတည်ပြီးတော့ ဆုံးဖြတ်မှာလဲ။ အကယ်၍ သူက အထောက်အထားသိတယ်ဆိုရင် ပြီးသွားပါပြီ။ ဘာကြောင့်လဲ ဆိုတော့ သတ်က်လီးဒ်ဆိုတာက အထောက်အထားမဲ့ လိုက်တာကို ပြောတာ။ အထောက်အထားနှင့်တကွသိတယ်ဆိုရင် အဲဒါကို သတ်က်လီးဒ်လို့မခေါ်ပါ။

**(၁၁)**

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُواْ لَا تُقَدِّمُواْ بَيْنَ يَدَيِ ٱللَّهِ وَرَسُولِهِۦ ۖ وَٱتَّقُواْ ٱللَّهَ ۚ إِنَّ ٱللَّهَ سَمِيعٌ عَلِيمٌ

အို-'မုအ်မင်န်' သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် (မည့်သည့်ကိစ္စ၌မဆို) အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်၌လည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်၏ ရှေ့၌လည်းကောင်း၊ ရှေ့သို့ မကျော်တက်ကြကုန်လင့်။ ကေန်မလွဲ အလ္လာဟ်အရှင်မြတ်သည် (အလုံးစုံသော ပြောဆိုမှုတို့ကို) အကြွင်းမဲ့ ကြားတော်မူသောအရှင်၊ (အလုံးစုံသော အခြေအနေ၊ အပြုအမူ၊ အတွင်းအပြင်တို့ကို) အကြွင်းမဲ့သိတော်မူသောအရှင် ဖြစ်တော်မူပေသည်။ (စူရဟ် ၄၉၊ စူရဟ်ဟုဂျုရာသ်၊ အာယသ် ၁)

သဘောက ဒီးန်ရေးရာကိစ္စမှာ မိမိတို့ကိုယ်တိုင် ဆုံးဖြတ်ချက်မပေးရဘူး။ မိမိတို့၏ နားလည်မှုနှင့် မိမိတို့၏ အမြင်တွေကို ဦးစားမပေးရဘူး။ သို့သာမက အလ္လာဟ်အရှင်မြတ်နဲ့ အလ္လာ့ဟ်တမန်တော်ရဲ့ အမိန့်ကို နာခံရမှာဖြစ်တယ်။ မိမိတို့ဘက်ကနေ သာသနာထဲမှာ တစ်ခုခုတိုးခြင်း၊ ဗိဒ်အသ် တရားအသစ် တီထွင်ခြင်းတို့သည် အလ္လာဟ်နဲ့အလ္လာဟ့်ရစူလ်၏ ရှေ့ကို ကျော်တက်ရာရောက်ပေသည်။

ဤအတိုင်းပင် တစ်ဦးတစ်ယောက်က ကုရ်အာန်ကျမ်းတော်မြတ်အပေါ်မှာ စဉ်းစားဆင်ခြင်မှုမရှိဘဲ ဖသ်ဝါပေးခဲ့မည်။ ဖသ်ဝါ

ပေးပြီးနောက် ရှရီအသ်၏ အထောက်အထား တစ်စုံတစ်ရာနှင့် အတိအလင်း ဆန့်ကျင်နေတာကို သိသွားခဲ့သော်လည်း အဲဒီ အပေါ်မှာပဲ ပေတေပြီး ဇွတ်မှိတ်နေခြင်းက အာယသ်တော်ထဲမှာ ပေးထားတဲ့ အမိန့်တော်နဲ့ ဆန့်ကျင်ပါတယ်။ မုအ်မင်န်ဆိုတာ အလ္လာဟ် အရှင်မြတ်နှင့် အလ္လာ့ဟ်ရစူလ်အမိန့်တော်၏ ရှေ့ မှောက်တွင် ဦးခေါင်းညွတ်၍ အမိန့်နာခံလိုက်ရပေမည်။ ကုရ်အာန်၊ ဟဒီးစ်၏ ဆန့်ကျင်ဘက်တွင် ကုရ်အာန်၊ ဟဒီးစ်နှင့် ယှဉ်၍ မိမိ၏စကား၊ သို့မဟုတ် မိမိအီမာမ်၏ အမြင်အပေါ်တွင် ဇွတ်ပေတေ၍ နေရမည်မဟုတ်။ ဤသို့ နေခြင်းသည် သက်ဝါနှင့် ဆန့်ကျင်ပေသည်။

**(၁၂)**

وَلَقَدْ ءَاتَيْنَآ إِبْرَٰهِيمَ رُشْدَهُۥ مِن قَبْلُ وَكُنَّا بِهِۦ عَٰلِمِينَ

ငင်းပြင် ကောန်မလွဲ ငါအရှင်မြတ်သည် (တမန်တော်) အိဗ်ရာဟီမ် အား ရှေးဦးမဆွကပင် ၎င်း၏ဆင်ခြင်တုံတရားကို ချီးမြှင့်ပေးသနား တော်မူခဲ့၏။ စင်စစ် ငါအရှင်မြတ်သည် ထိုအိဗ်ရာဟီမ်အား ကောင်းစွာ သိတော်မူသော အရှင်မြတ်ပင်ဖြစ်တော်မူပေသည်။

إِذْ قَالَ لِأَبِيهِ وَقَوْمِهِۦ مَا هَٰذِهِ ٱلتَّمَاثِيلُ ٱلَّتِىٓ أَنتُمْ لَهَا عَٰكِفُونَ

အကြင်အခါဝယ် ထိုအိဗ်ရာဟီမ်သည် မိမိဖခင်အားလည်းကောင်း၊ မိမိအမျိုးသားတို့အားလည်းကောင်း၊ (အချင်းတို့၊)အသင်တို့ စွဲလမ်း

ကိုးကွယ်လျက်ရှိကြကုန်သော ဤရုပ်တုများကား အဘယ်သို့သော အရာများနည်းဟု ပြောဆို(မေးမြန်း)ခဲ့လေသည်။

قَالُوا۟ وَجَدْنَآ ءَابَآءَنَا لَهَا عَٰبِدِينَ

ထိုအမျိုးသားတို့က ကျွန်ုပ်တို့သည် မိမိတို့၏အဘ၊ဘိုးဘေးတို့အား ဤရုပ်တုများကို ကိုးကွယ်သူများအဖြစ် တွေ့ရှိခဲ့ကြသည်ဟု ပြောဆို(ဖြေကြား) ခဲ့ကြလေသည်။

(စူရဟ် ၂၁၊ စူရဟ်အမ်ဘီယာ၊ အာယသ် ၅၁ မှ ၅၃)

တမန်တော်အိဗ်ရာဟီးမ်၏ မျိုးနွယ်ဝင်တွေက မိမိတို့ ရှရစ်က်အပေါ် ရပ်တည်နေကြခြင်းကို မှန်ကန်တယ်လို့ အထောက်အထားပြစရာ မရှိကြတော့ မိမိတို့ ရှေးလွန်ခဲ့သော သူတော်စင်များအပေါ်မှာ မှီငြမ်းလိုက်ကြတယ်။ အထောက်အထားပေးစရာမရှိတော့ ရှေးက လူတွေလုပ်လို့ လိုက်လုပ်ကြတယ်ဆိုပြီး အထောက်အထား ပေးကြတယ်။ ကျွန်ုပ်တို့၏ ယနေ့ခေတ်အခါ မွတ်စ်လင်မ်လူထုထဲမှ သတ်က်လီးဒ်လုပ်သောသူများ၏ အခြေအနေသည်လည်း ယင်းကဲ့သို့ပင် ဖြစ်နေပေသည်။ ၎င်းတို့ကို ကေယာစ်မလုပ်နဲ့၊ ရှရီအသ်နှင့်ဆန့်ကျင်၍၊ ကုရ်အာန်၊ ဟဒီးစ်နှင့်ဆန့်ကျင်၍ ကေယာစ် မလုပ်နဲ့၊ မိမိတို့၏ အမြင်တွေကို ရှေ့တန်းမတင်ကြနဲ့လို့ တားမြစ်ကြသောအခါ ၎င်းတို့က ဒီလိုပဲ အကြောင်းပြကြတယ်။ ငါတို့ ဘယ်လိုလုပ်ကြရမှာတုန်း။ ငါတို့၏ အီမာမ်ဆပ်က ဒီလိုပဲ မိန့်ခဲ့တာလေတဲ့။

**(၁၃)**

وَٱتَّبِعْ سَبِيلَ مَنْ أَنَابَ إِلَيَّ

ထိုပုဂ္ဂိုလ်၏ လမ်းကို လိုက်ပါ။ ထိုပုဂ္ဂိုလ်သည် ငါအရှင်မြတ်ဘက်သို့ လှည့်သည်။ (စူရဟ် ၃၁)

ဤအာယသ်တော်ကနေပြီးတော့ တချို့လူတွေက تقليد شخصي ရဲ့ အထောက်အထားကို ထုတ်ယူကြတယ်။ ဘယ်လို အထောက်ပေးကြသလဲဆိုတော့ အာယသ်တော်မှာ منيب إلى الله အလ္လာဟ် အရှင်မြတ်ဘက်ကို လှည့်သူ၏ အမိန့်အနောက်ကို လိုက်လို့ အမိန့်ပေးထားတယ်။ အဲဒီတော့ အီမာမ်အဗူဟနီဖာဟ်သည် منيب إلى الله အလ္လာဟ်ဘက်ကို လှည့်သောသူဖြစ်တာကြောင့် သူရဲ့သတ်က်လီးဒ်လုပ်တာက ဤအာယသ်တော်အရ မှန်သည်တဲ့။

¤ အဖြေ (၁) မုအ်မင်န်တိုင်းသည် အလ္လာဟ် အရှင်မြတ် ဘက်ကို လှည့်သည်။ သဖ်စီရ်အိဗ်နေ့ကစီးရ်တွင် مَنْ أَنَابَ إِلَيَّ ရဲ့ သဖ်စီရ်ကို မုအ်မင်န်များဟု ဖွင့်ဆိုထားပေသည်။ ဒါကြောင့် ၎င်းတို့၏ ဖွင့်ဆိုချက်နဲ့ ကြည့်မည်ဆိုလျှင် အာယသ်တော်၏ အဓိပ္ပာယ်က ဒီလိုဖြစ်သွားမည်။ “မုအ်မင်န်တိုင်း၏ သတ်က်လီးဒ်ကို လုပ်ကြကုန်။” ဒါဆိုရင် تقليد شخصي မဟုတ်တော့ဘဲ လူတိုင်း၏သတ်က်လီးဒ် လုပ်ဖို့ဖြစ်နေတော့မည်။ تقليد شخصي ဘယ်တော့မှ ဒီအာယသ်တော်ကနေ အတည်ဖြစ်တော့မှာ မဟုတ်တော့ဘူး။

¤ အဖြေ (၂) အာယသ်တော်ထဲမှာ ပြောထားတာက အလ္လာဟ်

အရှင်မြတ်ဘက်ကို လှည့်တဲ့သူတွေရဲ့ လမ်းစဉ်တွေကို လိုက်ကြပါလို့ မိန့်ထားတာဖြစ်တယ်။ အဲဒီထဲမှာ သူတို့ရဲ့ နောက်ကို လိုက်ကြပါလို့ မပါပါ။ သူတို့ရဲ့နောက်ကို လိုက်ခြင်းနဲ့ သူတို့ လျှောက်လှမ်းခဲ့ကြတဲ့ လမ်းကို လိုက်ခြင်းက မတူပါ။ လူတစ်ယောက် လမ်းတစ်ခုပေါ်မှာ လျှောက်ရင်းလျှောက်ရင်းနဲ့ မှားတတ်ပါတယ်။ ဘာဖြစ်လို့လဲဆိုတော့ လူသားဟာ အမှားနဲ့ မကင်းသော သတ္တဝါဖြစ်တယ်။ မုဂ်ျသဟိဒ်တို့သည်လည်း မှားယွင်းတတ်ပါတယ်။ အမှန်ကိုလည်း သူတို့ပြောတတ်ကြပါတယ်။ ဒါကြောင့်မို့ ထိုပုဂ္ဂိုလ်တို့၏ ذات ကို ဦးဆောင်ဦးရွက်အဖြစ်ထားပြီး ထိုပုဂ္ဂိုလ်တို့၏ နောက်ကို လိုက်မယ်ဆိုလျှင် မှားနိုင်ပါတယ်။ သို့သော်သူတို့ လျှောက်လှမ်းခဲ့ကြတဲ့ လမ်းစဉ်ကတော့ မမှားပါ။ ဘာဖြစ်လို့လဲဆိုတော့ အလ္လာဟ် အရှင်မြတ်ဘက်တော်သားတွေ အားလုံးက လျှောက်လှမ်းခဲ့ကြတဲ့လမ်းမှာ الصراط المستقيم ဖြောင့်မတ်မှန်ကန်သော လမ်းဖြစ်တယ်။ ဒါကြောင့် အာယသ်တော်မှာ الصراط المستقيم ဆိုတဲ့လမ်းပေါ်မှာ လျှောက်လှမ်းရန် အမိန့်ပေးနေခြင်းဖြစ်ပါသည်။ လူပုဂ္ဂိုလ်တစ်ယောက်ကို သီးသန့်ပြုလုပ်ပြီး သတ်က်လီးဒ် လုပ်ရန် အမိန့်ပေးထားခြင်း မဟုတ်ပါ။

¤ အဖြေ (၃) သာသနာတော်တွင်ရှိခဲ့ကြသော အီမာမ်ကြီးများသည် သတ်က်လီးဒ်လုပ်ခြင်းမှ တားမြစ်ခဲ့ကြပေသည်။ ဒါကြောင့် ၎င်းတို့၏ လမ်းကို လိုက်ခြင်းဟူသည်မှာ ၎င်းတို့၏လမ်းကို သတ်က်လီးဒ်

မလုပ်ခြင်းပင် ဖြစ်ပေသည်။ ၎င်းတို့ကို သတ်က်လီးဒ်မလုပ်ဘဲ ၎င်းတို့၏ လမ်းစဉ်၊ တစ်နည်း ကုရ်အာန်နှင့် ဟဒီးစ်တို့အပေါ်တွင် လျှောက်လှမ်းခြင်းသာ ဖြစ်ပေသည်။ ကုရ်အာန်နှင့် စွန္နဟ်အပေါ်တွင်သာ လျှောက်လှမ်းရပေမည်။ ထိုလမ်းစဉ်ပေါ်တွင် လျှောက်လှမ်းရန် ထိုအီမာမ်ကြီးများက ညွှန်ကြားခဲ့ကြပေသည်။

## ဟဒီးစ်တော်များ ရှုထောင့်မှ သတ်က်လီးဒ်ကိုပယ်ချခြင်း

**(၁)**

عن الْعِرْبَاض بْن سَارِيَةَ، يَقُولُ :قَامَ فِينَا رَسُولُ اللَّهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ ذَاتَ يَوْمٍ، فَوَعَظَنَا مَوْعِظَةً بَلِيغَةً، وَجِلَتْ مِنْهَا الْقُلُوبُ، وَذَرَفَتْ مِنْهَا الْعُيُونُ، فَقِيلَ يَا رَسُولَ اللَّهِ :وَعَظْتَنَا مَوْعِظَةَ مُوَدِّعٍ، فَاعْهَدْ إِلَيْنَا بِعَهْدٍ، فَقَالَ» :عَلَيْكُمْ بِتَقْوَى اللَّهِ، وَالسَّمْعِ وَالطَّاعَةِ، وَإِنْ عَبْدًا حَبَشِيًّا، وَسَتَرَوْنَ مِنْ بَعْدِي اخْتِلَافًا شَدِيدًا، فَعَلَيْكُمْ بِسُنَّتِي، وَسُنَّةِ الْخُلَفَاءِ الرَّاشِدِينَ الْمَهْدِيِّينَ، عَضُّوا عَلَيْهَا بِالنَّوَاجِذِ، وَإِيَّاكُمْ وَالْأُمُورَ الْمُحْدَثَاتِ، فَإِنَّ كُلَّ بِدْعَةٍ ضَلَالَةٌ«

အဓိပ္ပာယ်။ ။ အိရ်ဗာဒ်ဗ်အိဗ်နေ့ဆာရိယာထံမှ ဆင့်ပြန်ချက် လာရှိသည်။ တစ်ရက်တွင် တမန်တော်မြတ်(صلى الله عليه وسلم)က ကျွန်တော်တို့ကြားထဲတွင် ထတော်မူ၍ အင်မတန် ထိရောက်စွာ တရားဟောတော်မူသည်။ ယင်းတရားကြောင့် နှလုံးသားတွေ ကြောက်ရွံ့ခဲ့ကြရသည်။ မျက်ရည်များကျခဲ့ကြရသည်။ လူတို့က လျှောက်ထားသည်။ အို အလ္လာဟ်၏တမန်တော်၊ ကိုယ်တော်သည် ထွက်ခွာသွားရတော့မည့် လူကဲ့သို့ပင် တရားဟောနေတော်မူသည်။ သို့ဖြစ်ရာ ကျွန်တော်တို့ကို တရားဟာတော်မူပါဦးလို့ လျှောက်ထားကြရာ၊ တမန်တော်မြတ်(صلى الله عليه وسلم)က မိန့်တော်မူသည်။

သက်ဝါကို မြဲစွာကိုင်ထားကြကုန်။ ပြီးနောက် အသင်တို့အပေါ်တွင် အုပ်ချုပ်သူသည် ကပ္ပလီကျွန်ဖြစ်နေပါစေ အမိန့်နာခံခြင်း၊ စကား နားထောင်ခြင်းတို့မှာ မြဲမြံစွာနေကြကုန်။ များမကြာမီ ငါ၏နောက် တွင် အသင်တို့သည် အပြင်းအထန် ကွဲလွဲမှုများကို တွေ့ကြရပါ လိမ့်မည်။ ထိုအခါကျရင် ငါတမန်တော်၏ စွန္နဟ်နှင့် ဖြောင့်မတ် မှန်ကန်သော လမ်းမှန်ရရှိပြီးသော ကိုယ်စားလှယ်ကြီးများ၏ လမ်း စဉ်ကို မြဲမြံစွာကိုင်ထားကြကုန်။ အံ့သွားများဖြင့်ပင် ကိုက်ခဲထား ကြကုန်။ အသစ်အသစ်သော တီထွင်မှုများ၊ တရားသစ်များမှ ရှောင်ကြဉ်ကြကုန်။ အကြောင်းမှာ တရားသစ်တီထွင်မှုတိုင်းသည် လမ်းမှားဖြစ်ပေသည်။

(အိဗ်နုမာဂျာဟ်ကျမ်း၊ ဟဒီးဆ်နံပါတ် 42၊ အလ်ဗာနီ(رحمة الله عليه)က ဒီဟဒီးစ်ကို ဆွဟီးဟ်ဟုပြောထားပါသည်။)

ဒီဟဒီးစ်သည် အကျိုးများစွာ ရှိပေသည်။ ဒီဟဒီးစ်တော်မှ အချက်ပေါင်းများစွာ သိရပေသည်။

- ပထမ တစ်ချက်ကတော့ တမန်တော်မြတ်(صلى الله عليه وسلم)၏ တရားဟောကြားမှုသည် အဘယ်မျှ ထိရောက်သနည်းဟူမူ နှလုံး သားများပင် ကြောက်လန့်သွားပြီး မျက်ရည်များလည်း စီးကျသွား ပေသည်။
- ဒုတိယ တစ်ချက်ကတော့ ထွက်ခွာနှုတ်ဆက်ခါနီးတွင် တရား ဟောခြင်း၊ မှာတမ်းမှု ပြုခြင်းသည် စွန္နဟ်ဖြစ်သည်။
- တတိယ တစ်ချက်ကတော့ သက်ဝါတရား လက်ကိုင်ထားခြင်း သည် ရှရီအသ်၏ အဓိကအချက်၊ ဝိညာဉ်ဖြစ်သည်။

▪ စတုတ္တအချက်ကတော့ အုပ်ချုပ်သူ၏ အမိန့်ကို နာခံရန်အရေး ကြီးသည်။ စည်းကမ်းချက်မှာ ထိုသူသည် မုအ်မင်န်ဖြစ်ရမည်။ ထို့နောက် ရှရီအသ်နှင့်ဆန့်ကျင်၍ အမိန့်မပေးရပေ။ သဘောမှာ လူတို့ကို သူအမိန့်ပေးသော ကိစ္စရပ်သည် ဖန်ဆင်းရှင်၏ အမိန့် ဖီဆန်ရာ မရောက်သော ကိစ္စမဖြစ်ရပေ။

▪ ပဉ္စမအချက်ကတော့ တမန်တော်မြတ်(صلى الله عليه وسلم)၏ ခေတ် အခါကာလ နောက်ပိုင်းတွင် မြောက်များစွာသော ကွဲလွဲမှုများ ပေါ် ပေါက်ပါလိမ့်မည်။ ထိုအတိုင်းပင် ခေတ်ကောင်းကြီး (၃) ခေတ်ပြီး တဲ့ နောက်ပိုင်းတွင် မြောက်များစွာသော မဇ်ဟဗ်အသစ်တွေ လမ်းစဉ်အသစ်တွေ ပေါ်ပေါက်ပြီး ပျံ့နှံ့ခဲ့သည်။ လူတိုင်းလူတိုင်း သည် ကိုယ်စီကိုယ်စီ မဇ်ဟဗ်တို့နှင့် ကျေနပ်သွားခဲ့ကြသည်။ လူတိုင်းလူတိုင်းက မိမိအတွက် အီမာမ်တစ်ပါး၊ ခေါင်းဆောင် တစ်ပါး သတ်မှတ်လိုက်ကြသည်။ အကွဲအလွဲဖြစ်သောအခါ ထို အီမာမ်ဘက်ကိုသာ အားလုံးလှည့်ကြသည်။ ထို့နောက် တမန်တော် မြတ်(صلى الله عليه وسلم)၏ မှာတမ်းမှုကို မေ့လျော့သွားခဲ့ကြသည်။ အမှန်တတကယ်တော့ တမန်တော်မြတ်(صلى الله عليه وسلم) မှာကြား ခဲ့သည်မှာ ထိုအချိန်တွင် ငါတမန်တော်မြတ်၏ စွန္နဟ်နှင့် ခိုလာဖဟ် ရာရှိဒီးန်တို့၏ စွန္နဟ်ပေါ်ကို လျှောက်လှမ်းကြပါဟု ဖြစ်သည်။

▪ ဆဋ္ဌမအချက်ကတော့ တရားသစ်သီထွင်ခြင်း၊ သာသနာတော် တွင် အသစ်အသစ်ကိစ္စရပ်များ တီထွင်ခြင်းတို့မှ ရှောင်ကြဉ်ရန် ဖြစ်သည်။ ဤအမိန့်တော်တွင် ဗိဒ်အသ်မျိုးစုံပါဝင်သွားပေသည်။ ခေတ်ကောင်းကြီး ၃ ခေတ်ပြီးသည့်နောက် ပျံ့ပွားလာခဲ့သည့်

ဗိဒ်အသ်အားလုံးလည်း ပါဝင်သွားပေသည်။ ထိုဗိဒ်အသ် အားလုံးထဲ က တစ်ခုမှာ သတ်က်လီးဒ်လည်း အပါအဝင် ဖြစ်ပေသည်။ အကြောင်းမှာ ခေတ်ကောင်းကြီး ၃ ခေတ်မှာ သတ်က်လီးဒ် မရှိခဲ့ပေ။

▪ သတ္တမ အချက်ကတော့ တမန်တော်မြတ် (صلى الله عليه وسلم)က ဤသို့ မိန့်တော်မူခဲ့သည်။ လမ်းသစ်ဖောက်ခြင်း၊ တရားသစ်သီထွင်မှုတိုင်းသည် လမ်းမှားဖြစ်ပေသည်။ ဒါကြောင့်သိရသည်မှာ ဗိဒ်အသ်တရားသစ်တီထွင်မှုကို حسنة ကောင်းသော အသစ်တီထွင်ခြင်းနှင့် سيئة မကောင်းအသစ်ထွင်ခြင်းဟုဆို၍ ခွဲခြားခြင်းသည် လုံးဝမှားယွင်းပေသည်။

## ***ဖြောင့်မတ်မှန်ကန်သော ကိုယ်စားလှယ် ကြီးများ၏ လမ်းစဉ်ဆိုတာ***

ဟနီဖီအူစူလေ့ဖေကဟ်ကျမ်း المنار တွင်လာရှိပေသည်။

المعرفة إذا أعيدت كانت الثانية عين الأولى

မအ်ရီဖဟ်တစ်ခုကို နောက်တစ်ခါ ထက်ယူလာရင် ဒုတိယဖော်ပြတဲ့ မအ်ရီဖဟ်က ပထမဖော်ပြခဲ့တဲ့ မအ်ရီဖဟ်သာ ဖြစ်တယ်။ ကဗျာဆရာ က ဆိုတယ်။

إذااشتد بك البلوى ففكرفى ألم نشرح فعسربين يسرين إذافكرته تفرح

အသင့်အပေါ်မှာ ဒုက္ခ ပြင်းထန်လာပြီဆိုရင် အသင်ဟာ စူရဟ် အလမ်နရှ်ရဟ်ကို စဉ်းစားတွေးခေါ်လိုက်ပါ။ အဲဒီမှာ ဒုက္ခတစ်ခုက

လွယ်ကူမှု နှစ်ခု၏ကြားမှာ ရှိတယ်ဆိုတာ အသင် တွေ့ရမယ်။ ထိုအခါ အသင်ပျော်ရွှင်သွားလိမ့်မယ်။

ကုရ်အာန်ကျမ်းတော်မြတ်ထဲမှာ မိန့်ထားတယ်။

فَإِنَّ مَعَ ٱلْعُسْرِ يُسْرًا

သို့ဖြစ်ပေရာ ကေန်မလွဲ ခက်ခဲမှုနှင့်အတူ လွယ်ကူမှုသည် (ဒွန်တွဲလျက်ပင်) ရှိ၏။

إِنَّ مَعَ ٱلْعُسْرِ يُسْرًا

ခက်ခဲမှုနှင့်အတူ လွယ်ကူမှုသည် ကေန်အမှန်(ဒွန်တွဲလျက်ပင်) ရှိ၏။ (စူရဟ်အလမ်နရ်ှရဟ်၊ အယာသ် ၅၊ ၆)

ဤနေရာတွင် ٱلْعُسْرِ သည် မအ်ရေဖဟ်ဖြစ်သည်။ ထိုမအ်ရေဖဟ်ကိုပဲ ထပ်မံ၍ ဒုတိယတစ်ခါ ယူဆောင်လာသည်။ ထို့ကြောင့် ဒုတိယ ٱلْعُسْرِ သည် ပထမ ٱلْعُسْرِ ပင်ဖြစ်ပေသည်။ ယခုဟဒီးစ်တော်ကို ကြည့်ကြကုန်။ စွန္နဟ်ဆိုသည့်စာလုံး ဒုတိယတစ်ဖန် မအ်ရေဖဟ်အဖြစ်နဲ့ ယူလာထားသည်။ အထက်ဖော်ပြပါ ဥပဒေသကို ရှေးရှု၍ မွလ္လာအလီကာရီ(ဟနဖီ)က ထိုဟဒီးစ်တော်၏ အဓိပ္ပာယ်ကို ဤသို့ ဖွင့်ဆိုထားသည်ကို ကြည့်ပါလေ။

وسنة الخلفاء الراشدين: فإنهم لم يعلموا إلا بسنتي فالإضافة إليهم إلا لعملهم بها واختيارهم إياها

ခိုလာဖာရာရှီးဒ်ဒီးန်တို့၏ လမ်းစဉ်ကို ရွေးချယ်ရန် တမန်တော်မြတ် ဘာကြောင့် မိန့်ကြားတော်မူခဲ့သလဲဆိုတော့ ထိုပုဂ္ဂိုလ်တို့သည်လည်း တမန်တော်မြတ်ﷺ၏ စွန္နဟ်တော်ကိုသာ အမလ်

လုပ်ကြသောကြောင့် ဖြစ်သည်။ ထို့ကြောင့် ၎င်းတို့ဘက်သို့ စွန္နဟ်တော်ကို ဆက်နွယ်တာက ၎င်းတို့ကိုယ်တိုင်က ထိုစွန္နဟ်အပေါ်မှာ အမလ်လုပ်ကြသောကြောင့် (သို့မဟုတ်) ၎င်းတို့သည် တမန်တော်မြတ်ﷺ၏ စွန္နဟ်တော်မှ ကောက်နုတ်ဆင်ခြင်ကာ ကျင့်သုံးကြသောကြောင့်ပင် ဖြစ်ပေသည်။

(မိရ်ကားသ်ကျမ်း၏ အဖွင့်ကျမ်း၊ တွဲ ၁၊ စာ ၁၉၉)

ရှိုင်းခ်မိုဟမ္မဒ်သွာဟိရ်(رحمة الله عليه)က တိုး၍ ဤသို့မိန့်သည်။

ولأنه علم بعض سننه لايشتهر إلا في زمانهم فأضاف إليهم رفعا لتوهم من رد تلك السنة (مجمع البحارج 1 ص 367)

အကြောင်းမှာ (အလ္လာဟ်အရှင်မြတ်၏ သတင်းပေးမှုအရ) ကိုယ်တော်မြတ်က သိတော်မူခဲ့သည်။ ကိုယ်တော့်၏ တချို့စွန္နဟ်တော်များသည် ထိုမှန်ကန်သော ကိုယ်စားလှယ်ကြီးများ ခေတ်ရောက်တော့မှသာလျှင် ကျော်ကြားပေလိမ့်မည်။ ထို့ကြောင့် စွန္နဟ်တော်ကို တမန်တော်မြတ်(صلى الله عليه وسلم)က ၎င်းတို့ဘက် ဆက်နွယ်လိုက်ခြင်းဖြစ်ပေသည်။ အကြောင်းမှာ ၎င်းတို့၏ စွန္နဟ်တော်ကို ပစ်ပယ်ကြမည့်သူများ၏ ထင်ယောင်ထင်မှားမှုများကို ထုချေရန်အတွက်ဖြစ်ပေသည်။

ဤစာပိုဒ်မှ ထွက်သည့်ရလဒ်မှာ ခိုလာဖဟ်ရာရှိဒီးန်တို့သည် တစ်ခါတစ်ခါ လူတွေစွန့်လွှတ်ပစ်ခဲ့ကြပြီဖြစ်သော စွန္နဟ်တော်များကို ပြန်လည်ရှင်သန်လာအောင် လုပ်ခဲ့ကြသည်။ တစ်ခါတစ်ခါ တမန်တော်မြတ်၏ စွန္နဟ်တော်တစ်ခုထဲကပင် ကောက်နှုတ်ဆင်

ခြင်း၍ မဆ်အလဟ်များ ထုတ်ကာ ကျင့်သုံးကြသည်။ ဤပုံစံ နှစ်မျိုးနှင့်ပတ်သက်၍ တမန်တော်မြတ်ﷺက "ခိုလာဖဟ် ရာရှိုးဒီးန်၏ လမ်းစဉ်နောက်ကို လိုက်ကြပါ"ဟု မိန့်ကြားတော်မူခဲ့ခြင်းဖြစ်သည်။

ခိုလာဖဟ်ရာရှိဒီးန်တို့က မိမိတို့၏ အမြင်တို့ဖြင့် ဖသ်ဝါပေးခြင်း၊ သို့မဟုတ် နိုင်ငံရေးအရ ပညတ်ချက်တစ်ခုခုထုတ်ခြင်း ကိစ္စတို့မှာမူ သတ်က်လီးဒ်လုပ်ရမည့် ကိစ္စများမဟုတ်ပေ။ ယင်းကိစ္စများတွင်တော့ ထိုကိုယ်စားလှယ်ကြီးများ၏ နောက်သို့ လိုက်စရာမလိုပေ။ ဟနဖီတို့ကို ကြည့်ကြပါကုန်။ ၎င်းတို့သည် ဤဟဒီးစ်နှင့်ဆန့်ကျင်၍ ရာပေါင်းများစွာသော မဆ်အလဟ်များတွင် မှန်ကန်သော၊ ဖြောင့်မတ်သော ကိုယ်စားလှယ်တော်ကြီးများ၏ လမ်းစဉ်နှင့်ဆန့်ကျင်၍ ဖသ်ဝါပေးခဲ့ကြသည်။ ဟနဖီတို့ထံတွင် ဖဂျရ်နမာဇ်ကို (အိစ်ဖားရ်) အလင်းတော်တော် ပျံ့သည့်အခါတွင် ဖတ်ရသည်။ ဟေဒါယာဟ်ကျမ်းတွင် လာရှိသည်။

ويستحب الإسفار بالفجر(كتاب الصلاة ص 66)

ဟာဇိမီက ကီသာဗုလ်အေအ်သီဗာရ်တွင် ရေးပါသည်။

التغليس أفضل روينا ذلك عن الخلفاء الراشدين أبي بكروعمر وعثمان وعلي
وابن مسعود وأبي موسى وابن زبير وعائشة وأم سلمة (كتاب الاعتبارللحازمي)

အမှောင်ထဲမှာ ဖဂျရ်နမာဇ်ကို ဖတ်ခြင်း မြင့်မြတ်ကြောင်း ဆင့်ပြန်မှုများ လာရှိထားပေသည်။ ခိုလဖဟ်ရာရှိဒီးန် အဗူဗကရ်၊ အွမ္မရ်၊ အွဆ်မားန်၊ အလီ၊ အိဗ်နုမဆ်အူးဒ်၊ အဗူမူစာ၊ အိဗ်နေ့ ဇိုဗိုင်းရ်၊ အာအီရှာ၊ အွမ္မေ့ဆလ်မာစသည့် ဆွဟာဗဟ်တို့ထံမှ ဆင့်ပြန်ချက်ရှိထားပေသည်။

စဉ်းစားကြပေကုန်။ ဤမဆ်အလဟ်တွင် ဟဇရသ် အိဗ်နေ့ မက်စ်အူးဒ်၏ အဆိုကိုပင် ဟာနဖီတို့သည် ဂရုမမူပစ်ထားကြပေသည်။

**(၂)**

عَنْ جَابِرٍ " :أَنَّ عُمَرَ بْنَ الْخَطَّابِ أَتَى رَسُولَ اللَّهِ - صلى الله عليه وسلم - بِنُسْخَةٍ مِنَ التَّوْرَاةِ فَقَالَ: يَا رَسُولَ اللَّهِ، هَذِهِ نُسْخَةٌ مِنَ التَّوْرَاةِ . فَسَكَتَ فَجَعَلَ يَقْرَأُ وَوَجْهُ رَسُولِ اللَّهِ - صلى الله عليه وسلم - يَتَغَيَّرُ، فَقَالَ أَبُو بَكْرٍ : ثَكِلَتْكَ الثَّوَاكِلُ، أَمَا تَرَى مَا بِوَجْهِ رَسُولِ اللَّهِ - صلى الله عليه وسلم- ؟ ، فَنَظَرَ عُمَرُ إِلَى وَجْهِ رَسُولِ اللَّهِ - صلى الله عليه وسلم - فَقَالَ : أَعُوذُ بِاللَّهِ مِنْ غَضَبِ اللَّهِ، وَمِنْ غَضَبِ رَسُولِهِ، رَضِينَا بِاللَّهِ رَبًّا وَبِالإِسْلاَمِ دِيناً وَبِمُحَمَّدٍ نَبِيًّا " فَقَالَ رَسُولُ اللَّهِ - صلى الله عليه وسلم» :- وَالَّذِي نَفْسُ مُحَمَّدٍ بِيَدِهِ لَوْ بَدَا لَكُمْ مُوسَى فَاتَّبَعْتُمُوهُ وَتَرَكْتُمُونِي لَضَلَلْتُمْ عَنْ سَوَاءِ السَّبِيلِ، وَلَوْ كَانَ حَيًّا وَأَدْرَكَ نُبُوَّتِي لاَتَّبَعَنِي«

□ ဂျာဗိရ်(ရသွေ့)ထံမှ ဆင့်ပြန်ချက်လာရှိသည်။ ဟဇရသ်အုမရ်သည် သောင်ရသ်၏ ကျမ်းစာအုပ်တစ်အုပ်ကို ယူ၍ တမန်တော်မြတ်(صلى الله عليه وسلم)ထံသို့လာကာ ဤသို့လျှောက်ထားသည်။ အို....အလ္လာဟ်၏တမန်တော် ဤသည် သောင်ရသ်ကျမ်းစာအုပ်ဖြစ်သည်။ ဒါကိုကြား၍ တမန်တော်မြတ်(صلى الله عليه وسلم) ဆိတ်ဆိတ်နေတော်မူသည်။ ဟဇရသ်အုမရ်သည် ထိုသောင်ရသ်ကို ဖတ်နေသည်။ တမန်တော်မြတ်(صلى الله عليه وسلم)၏ မျက်နှာအရောင်သည်လည်း ပြောင်းလဲသွားနေလေသည်။ ဟဇရသ် အဗူဗကရ်(ရသွေ့)က အမိန့်ရှိသည်။ မိခင်များ အသင့်ကို ပျောက်ဆုံး

ပါစေ၊ တမန်တော်မြတ်(صلى الله عليه وسلم)၏ မျက်နှာတော် အရောင်ပြောင်းနေသည်ကို အသင်မတွေ့သလော။ ဟဇရသ် အုမရ်သည် တမန်တော်မြတ်(صلى الله عليه وسلم)၏ မျက်နှာကို ကြည့်သောအခါ ဤသို့ပြောသည်။ ကျွန်ုပ်တို့သည် အလ္လာဟ် အရှင်မြတ်ကို ဖန်ဆင်း မွေးမြူတော်မူသော အရှင်အဖြစ် ကျေနပ်ပါသည်။ အစ္စလာမ်ကို သာသနာတော်အဖြစ်ကျေနပ်ပါသည်။ မုဟမ္မဒ်ﷺကို နဗီတမန်တော်အဖြစ် ကျေနပ်ပါသည်။ ထို့နောက် တမန်တော်မြတ်(صلى الله عليه وسلم)က မိန့်တော်မူသည်။ ငါ မုဟမ္မဒ်၏ အသက်ကို လက်ဝယ်စိုးပိုင်တော်မူသော အရှင်မြတ်ကို တိုင်တည်ပါ၏။ အကယ်၍ မူစာသည် ထွက်ပေါ်လာပြီး အသင်တို့သည် သူ့နောက်ကို လိုက်ခဲ့ကြပါက အသင်တို့သည် မှန်ကန်သော လမ်းစဉ်တော်မှ ချွတ်ချော်တိမ်းပါးသွားပေလိမ့်မည်။ လမ်းလွဲသွားပေလိမ့်မည်။ အကယ်၍ မူစာသည် အသက် ရှင်သန်၍ လာခဲ့ပါက ငါတမန်တော် နဗီဖြစ်သည်ကိုလည်း ကြုံကြိုက်ခဲ့ရပါက သူသည် မုချကေန် ငါ တမန်တော်မြတ်၏ နောက်ကိုသာ လိုက်ရမည် ဖြစ်ပေသည်။

(ဒါရိမီကျမ်း၊ ဟဒီးစ်နံပါတ် ၄၄၉ အန်စွာရုလ်စွန္နဟ် ပုံနှိပ်တိုက်မှ ထုတ်ဝေသည်။ ဤဟဒီးစ်၏ စနဒ်ကွင်းဆက်သည် ချည့်နဲ့သည်။ တချို့ပညာရှင်များက ဤဟဒီးစ်ကို ဟစန်အဆင့်ရှိသည်ဟု သတ်မှတ်ကြပေသည်။)

ဤတမန်တော်မြတ်၏ မိန့်ခွန်းဩဝါဒတော်မှ ပေါ်လွင်ထင်ရှားသည့်အချက်မှာ တမန်တော်မြတ်(صلى الله عليه وسلم)၏ သက်ရှိထင်ရှားရှိစဉ်အခါတွင် ဟဇရသ်မူစာ၏ အနောက်ကို လိုက်ခြင်း

သည် လမ်းမှားဖြစ်လျှင် တမန်တော်မြတ်(صلى الله عليه وسلم)၏ စွန္နတ်တော်များ၊ ဟဒီးစ်တော်များ ရှိနေပါလျက် အကြင်သူသည် အီမာမ်တို့၏ သတ်က်လီးဒ်လုပ်ခြင်းကို ဖရ်ဇ်၊ ဝါဂျစ်ဗ်ဟု မှတ်ယူကာ ထိုအီမာမ်ကြီးများ၏ အဆိုအမိန့်များကို မိမိတို့၏ ကျင့်သုံးရာလမ်းစဉ်များအဖြစ် သတ်မှတ်မည်၊ တမန်တော်မြတ်( صلى الله عليه وسلم) ၏ မိန့်ခွန်းတော်များ၊ စွန္နတ်တော်များအပေါ် ထိုအရာများကို ဦးစားပေးမည်ဆိုပါက ဤကဲ့သို့သောပုဂ္ဂိုလ်၏ လုပ်ရပ်များ၊ ကုသိုလ်များသည် အချည်အနှီးအလဟဿသာ ဖြစ်သွားမည်ဖြစ်ကြောင်း၊ သူသည် လမ်းမှားရောက်နေပြီဖြစ်ကြောင်း မည်သို့ သံသယဖြစ်စရာ ရှိတော့မည်နည်း။

**(၃)**

عَنْ جَابِرِ بْنِ عَبْدِ اللَّهِ، قَالَ :كُنَّا عِنْدَ النَّبِيِّ صَلَّى اللهُ عَلَيْهِ وَسَلَّمَ فَخَطَّ خَطًّا، وَخَطَّ خَطَّيْنِ عَنْ يَمِينِهِ، وَخَطَّ خَطَّيْنِ عَنْ يَسَارِهِ، ثُمَّ وَضَعَ يَدَهُ فِي الْخَطِّ الْأَوْسَطِ، فَقَالَ : »هَذَا سَبِيلُ اللَّهِ «ثُمَّ تَلَا هَذِهِ الْآيَةَ (وَأَنَّ هَذَا صِرَاطِي مُسْتَقِيمًا فَاتَّبِعُوهُ وَلَا تَتَّبِعُوا السُّبُلَ فَتَفَرَّقَ بِكُمْ عَنْ سَبِيلِهِ)

□ ဂျာဗိရ်(ရသွေ့)ထံမှ ဆင့်ပြန်ချက်လာရှိပေသည်။ ၎င်းက အမိန့်ရှိသည်။ ကျွန်ုပ်တို့သည် တမန်တော်မြတ်(صلى الله عليه وسلم)၏ အပါးတော်တွင် ရှိနေခဲ့ကြသည်။ ထိုအခါ တမန်တော်မြတ်( صلى الله عليه وسلم) က မျဉ်းကြောင်း တစ်ကြောင်းဆွဲသည်။ ထို့နောက် ယင်းမျဉ်းကြောင်း၏ ညာဘက်တွင် မျဉ်းကြောင်း နှစ်ကြောင်း ဆွဲလေသည်။ ထို့နောက် ယင်းမျဉ်းကြောင်း၏ ဘယ်ဘက်တွင်လည်း မျဉ်းကြောင်း နှစ်ကြောင်းဆွဲလေသည်။ အလယ်တွင်ရှိ

သော မျည်းကြောင်း အပေါ်တွင် မိမိ၏လက်ကိုထား၍ အမိန့်ရှိတော်မူသည်။ ဤလမ်းသည် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်ဖြစ်သည်။ ထို့နောက် တမန်တော်မြတ်(صلى الله عليه وسلم)က ဤအာယသ်တော်ကို ရွတ်ဖတ်တော်မူလေသည်။

وَأَنَّ هَٰذَا صِرَٰطِى مُسْتَقِيمًا فَٱتَّبِعُوهُ ۖ وَلَا تَتَّبِعُوا۟ ٱلسُّبُلَ فَتَفَرَّقَ بِكُمْ عَن سَبِيلِهِۦ ۚ

ထိုမှတစ်ပါး (အသင်ပြောကြားပါလေ။) ဤသည် ငါ၏ ဖြောင့်မတ်မှန်ကန်သော တရားလမ်းစဉ်ပေတည်း။ သို့ဖြစ်ပေရာ အသင်တို့သည် ထိုလမ်းစဉ်ကိုသာ လိုက်ကြလေကုန်။ အခြားအခြားသော လမ်းစဉ်များကို မလိုက်ကြကုန်လင့်။ အဘယ့်ကြောင့်ဆိုသော် ယင်းလမ်းစဉ်များသည် အသင်တို့အား ထိုအရှင်မြတ်၏လမ်းတော်မှ ကွဲကွာစေမည် ဖြစ်သောကြောင့်ပင်။

(အိဗ်နေ့မာဂျဟ်ကျမ်း၊ ဟဒီးစ်နံပါတ် ၁၁၊ အလ်ဗာနီ(رحمة الله عليه)က ထိုဟဒီးစ်ကို ဆွဟီးဟ်ဟု ပြောထားပေသည်။ သို့သော် တချို့ဟဒီးစ်သုတေသီများက ထိုဟဒီးစ်၏ စနဒ်ကို အားအင်ချည့်နဲ့သည်ဟု သတ်မှတ်ကြသည်။)

■ ဤဟဒီးစ်တော်သည် တမန်တော်မြတ်(صلى الله عليه وسلم)၏ နှုတ်ခြွေမုအ်ဂျီဇဟ်တန်ခိုးတော်မှ ဖြစ်ပေသည်။ ဆိုလိုသည်မှာ တမန်တော်မြတ်(صلى الله عليه وسلم)သည် အလ္လာဟ်အရှင်မြတ်ထံတော်ပါးမှာ သတင်းရရှိ၍ မိမိအွမ္မသ်ကို သတိပေးခဲ့လေသည်။ အင်မတန်ဆိုးရွားသော ခေတ်ကြီးတစ်ခေတ် ရောက်လာပေလိမ့်မည်။ လူတို့သည် ကုရ်အာန်၊ စွန္နဟ်နောက်လိုက်ခြင်းကို စွန့်လွှတ်၍ မြောက်များစွာသော အီမာမ်ကြီးတို့ကို သတ်ကလီးဒ် လုပ်ခြင်း

ကို မိမိတို့အပေါ်တွင် အရေးကြီးသည်ဟု သတ်မှတ်ကာ ဂိုဏ်းဂဏ အသီးသီး၊ အုပ်စုအသီးသီး ကွဲကုန်ကြပေလိမ့်မည်။

တမန်တော်မြတ်(صلى الله عليه وسلم)သည် အလယ်မျဉ်းကြောင်းကို အလ္လာဟ်အရှင်မြတ်၏ လမ်းတော်ဟု မိန့်တော်မူခဲ့သည်။ တချို့လူတို့က ပြောကြသည်။ ထိုဂိုဏ်းဝင် အသီးသီးတို့သည် ယင်းဖြောင့်မတ်မှန်ကန်သော လမ်းစဉ်မှ ခွဲထွက်၍ နောက်ဆုံး ယင်းလမ်းစဉ်တွင်ပင်လျှင် အားလုံး ပြန်လည်၍ ဆုံစည်းသွားကြသည်တဲ့။ သို့ဆိုလျှင် ဤအုပ်စုဝင်တို့သည် ဤဖြောင့်မတ်သောလမ်းမှ စကတည်းက ဘာကြောင့်ခွဲထွက်ခဲ့ကြသနည်းဟု မေးစရာရှိလာပါသည်။ ဖြောင့်မတ်မှန်ကန်သော လမ်းစဉ်ကို စွန့်လွှတ်၍ အမျိုးမျိုးအသီးသီးသော လမ်းကြောင်းများအပေါ်တွင် ခွဲထွက်၍ လျှောက်ခြင်း၊ နောက်ဆုံး ဖြောင့်မတ်မှန်ကန်သော လမ်းစဉ်အပေါ်တွင် ပြန်လည်၍ ဆုံဆည်းသွားခြင်း ...ဤသို့လုပ်ခြင်းဖြင့် မည်သို့သော အကျိုးကျေးဇူး ဖြစ်ထွန်းသနည်း။

မေးခွန်း မေးမြန်းလိုသည်မှာ ဤကဲ့သို့ လုပ်ခြင်းဖြင့် မည်သို့ အကျိုးရှိသနည်း။

ဆိုလိုသည်မှာ အစကတည်းက ဒီဖြောင့်မတ်မှန်ကန်သော လမ်းကြောင်းကိုပဲ အစအဆုံးသွားလျှင် မရဘူးလား။ ဖြောင့်မတ်မှန်ကန်တဲ့ လမ်းစဉ်ကနေ ခဏလောက် ဟိုဘက်ဒီဘက် ခွဲထွက်ပြီး နောက်ဆုံးမှာ ဒီဖြောင့်မတ်မှန်ကန်သော လမ်းစဉ်မှာပဲ ဆုံဆည်းကြမယ်ဆိုတော့ အဓိပ္ပာယ်ကဘာရှိသလဲ။ ဤသို့လုပ်ခြင်းဖြင့် မည်သို့ အကျိုးရှိသလဲ။

(၄)

عَنِ ابْنِ شِهَابٍ، أَنَّ سَالِمَ بْنَ عَبْدِ اللَّهِ بْنِ عُمَرَ، حَدَّثَهُ أَنَّهُ، سَمِعَ رَجُلًا، مِنْ أَهْلِ الشَّامِ يَسْأَلُ عَبْدَ اللَّهِ بْنَ عُمَرَ عَنِ التَّمَتُّعِ بِالْعُمْرَةِ إِلَى الْحَجِّ، فَقَالَ عَبْدُ اللَّهِ :هِيَ

حَلَالٌ، فَقَالَ الشَّامِيُّ :إِنَّ أَبَاكَ قَدْ نَهَى عَنْهَا، فَقَالَ عَبْدُ اللَّهِ بْنُ عُمَرَ :أَرَأَيْتَ إِنْ كَانَ

أَبِي قَدْ نَهَى عَنْهَا، وَصَنَعَهَا رَسُولُ اللَّهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ، أَمْرُ أَبِي يُتَّبَعُ أَمْ أَمْرُ رَسُولِ اللَّهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ؟ فَقَالَ الرَّجُلُ :بَلْ أَمْرُ رَسُولِ اللَّهِ صَلَّى اللهُ عَلَيْهِ

وَسَلَّمَ، فَقَالَ :قَدْ صَنَعَهَا رَسُولُ اللَّهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ

ဆီရီးယားက ပုဂ္ဂိုလ်တစ်ဦးက အဗ်ဒွလ္လာဟ်အိဗ်နေ့အုမရ်(ရသွေ့) ထံလာ၍ ဟဂျ်မှာ تمتع လုပ်တာနဲ့ ပတ်သက်ပြီး မေးမြန်းခဲ့တယ်။ အဲဒီအခါ ဆွဟာဗာဟ်ကြီးကအမိန့်ရှိတယ်။ ဟဂျ်ုလ်သမတ္တုံအ်က လုပ်ခြင်းပိုင်တယ်။ ဆီရီးယားနိုင်ငံသားက ပြောတယ်။ သို့သော် ခင်ဗျားရဲ့ ဖခင်အုမရ်အိဗ်နေ့ခတ္တာဗ်က သမတ္တုံအ်လုပ်ခြင်းကို တားမြစ်ခဲ့တယ်လေတဲ့။ ထိုအခါ အဗ်ဒွလ္လာဟ်အိဗ်နေ့အုမရ် (ရသွေ့) က အမိန့်ရှိတယ်။ မင်းငါ့ကိုပြောစမ်း၊ အကယ်၍ ငါ၏ဖခင်က တားမြစ်ပြီးတော့ တမန်တော်မြတ်(صلى الله عليه وسلم)က လုပ်ဆောင်ခဲ့မယ်ဆိုရင် ငါ့ဖခင်ရဲ့ နောက်ကိုလိုက်ရမှာလား၊ ဒါမှမဟုတ် တမန်တော်မြတ်(صلى الله عليه وسلم)ရဲ့ အမိန့်နောက်ကိုလိုက်ရမလား။ ထိုအခါ ဆီရီးယားနိုင်ငံသားက ပြောတယ်။ တမန်တော်မြတ်( صلى الله عليه وسلم)ရဲ့ အမိန့်အနောက်ကို လိုက်ရမှာပေါ့တဲ့။ ထိုအခါ ဟဇရသ် အိဗ်နုအုမရ်(ရသွေ့)က မိန့်တယ်။ တမန်တော်မြတ်( صلى الله عليه وسلم)က ဒီအတိုင်းလုပ်ခဲ့ပါတယ်။ (သိရ်မိဇီကျမ်း၊ ဟဒီးစ်နံပါတ် ၈၂၄)

**(၅)**

عَنْ عَلِيِّ بْنِ حُسَيْنٍ، عَنْ مَرْوَانَ بْنِ الحَكَمِ، قَالَ :شَهِدْتُ عُثْمَانَ، وَعَلِيًّا رَضِيَ اللَّهُ عَنْهُمَا وَعُثْمَانُ» يَنْهَى عَنِ المُتْعَةِ، وَأَنْ يُجْمَعَ بَيْنَهُمَا«، فَلَمَّا» رَأَى عَلِيٌّ أَهَلَّ بِهِمَا، لَبَّيْكَ بِعُمْرَةٍ وَحَجَّةٍ«، قَالَ» :مَا كُنْتُ لِأَدَعَ سُنَّةَ النَّبِيِّ صَلَّى اللهُ عَلَيْهِ وَسَلَّمَ لِقَوْلِ أَحَدٍ «

မရ်ဝါအိဗ်နေ့ဟကမ်က ပြောပြတယ်။ ကျွန်တော်က ဟဇရတ်အွတ်စ်မာန်းနဲ့ ဟဇရတ်အလီတို့၏ ခေတ်အခါကာလမှာ ရှိခဲ့ပါသည်။ ဟဇရတ်အွတ်စ်မာန်သည် မိမိခေတ်အခါ သမ္မတဖြစ်စဉ်ကာလတွင် ဟဂ်ျသမဿုအ်၊ ဟဂ်ျကီရာန် လုပ်ခြင်းတို့ကို တားမြစ်ခဲ့သည်။ ဟဇရတ်အလီက ဒါကိုမြင်သောအခါ ဤကဲ့သို့ အေဟ်ရာမ်ဝတ်ဆင်သည်။

لَبَّيْكَ بِعُمْرَةٍ وَحَجَّةٍ

ဆိုလိုသည်မှာ ကျွန်ုပ်ကီရာန်လုပ်ပါသည်။ ပြီးတော့ ဟဇရတ်အလီက အမိန့်ရှိသည်။ ငါသည် မည်သူတစ်ဦးတစ်ယောက်၏ ပြောဆိုချက်ကြောင့်မှ တမန်တော်မြတ်(صلى الله عليه وسلم)၏ စွန္နဟ်တော်ကို လွတ်မည် မဟုတ်ပါတဲ့။ (ဗုခါရီကျမ်း၊ ဟဒီးစ်နံပါတ် ၁၅၆၃)

ဖော်ပြပါ ဟဒီးစ်တော်နှစ်ပုဒ်ကို ကြည့်ခြင်းအားဖြင့် သိရသည်မှာ တမန်တော်မြတ်(صلى الله عليه وسلم)၏ မိန့်ဆိုချက်များ၊ ကျင့်သုံးမှုများနှင့် ဆန့်ကျင်လာလျှင် အုမရ်(ရသွေ့)၊ အွတ်စ်မာန်း (ရသွေ့)တို့ကဲ့သို့ အကြီးအကဲဆွဟာဗဟ်ကြီးတို့ရဲ့ စကားကိုတောင် လက်ခံလို့မရဘူးဆိုလျှင် တမန်တော်မြတ်(صلى الله عليه وسلم)၏ ဟဒီးစ်

တော်များနှင့် ယှဉ်လာလျှင် အီမာမ်ကြီးများ၏ အဆိုများ၊ အိဂျ်သေဟားဒ်များသည် ဘယ်အဆင့်ရှိမည်နည်း။

**(၆)**

عَنْ كَثِيرِ بْنِ قَيْسٍ، قَالَ :كُنْتُ جَالِسًا عِنْدَ أَبِي الدَّرْدَاءِ فِي مَسْجِدِ دِمَشْقَ، فَأَتَاهُ رَجُلٌ، فَقَالَ :يَا أَبَا الدَّرْدَاءِ، أَتَيْتُكَ مِنَ الْمَدِينَةِ، مَدِينَةِ رَسُولِ اللَّهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ؛ لِحَدِيثٍ بَلَغَنِي أَنَّكَ تُحَدِّثُ بِهِ عَنِ النَّبِيِّ صَلَّى اللهُ عَلَيْهِ وَسَلَّمَ :قَالَ :فَمَا جَاءَ بِكَ تِجَارَةٌ؟ قَالَ :لَا، قَالَ :وَلَا جَاءَ بِكَ غَيْرُهُ؟ قَالَ :لَا، قَالَ :فَإِنِّي سَمِعْتُ رَسُولَ اللَّهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ يَقُولُ» :مَنْ سَلَكَ طَرِيقًا يَلْتَمِسُ فِيهِ عِلْمًا، سَهَّلَ اللَّهُ لَهُ طَرِيقًا إِلَى الْجَنَّةِ، وَإِنَّ الْمَلَائِكَةَ لَتَضَعُ أَجْنِحَتَهَا رِضًا لِطَالِبِ الْعِلْمِ، وَإِنَّ طَالِبَ الْعِلْمِ يَسْتَغْفِرُ لَهُ مَنْ فِي السَّمَاءِ وَالْأَرْضِ، حَتَّى الْحِيتَانِ فِي الْمَاءِ، وَإِنَّ فَضْلَ الْعَالِمِ عَلَى الْعَابِدِ كَفَضْلِ الْقَمَرِ عَلَى سَائِرِ الْكَوَاكِبِ، إِنَّ الْعُلَمَاءَ وَرَثَةُ الْأَنْبِيَاءِ، إِنَّ الْأَنْبِيَاءَ لَمْ يُوَرِّثُوا دِينَارًا وَلَا دِرْهَمًا، إِنَّمَا وَرَّثُوا الْعِلْمَ، فَمَنْ أَخَذَهُ أَخَذَ بِحَظٍّ وَافِرٍ«

ကဆီရ်အိဗ်နေ့ကိုင်းစ်ကအမိန့်ရှိသည်။ ကျွန်ုပ်သည် ဟဇရသ်အဗူဒရ်ဒါ(ရသွေ့) အနားတွင် ဒီမက်ရှ်မြို့တော်၏ ဗလီထဲတွင် ထိုင်နေသည်။ အဲဒီအချိန်တွင် လူတစ်ယောက် ရောက်လာပြီးပြောသည်။ အို.....အဗူဒရ်ဒါ ကျွန်ုပ်သည် ခင်ဗျားထံကို တမန်တော်မြတ်( صلى الله عليه وسلم)၏ မြို့တော် မဒီနာကနေ ဟဒီးစ်တော် တစ်ပုဒ် ယူဖို့ရန် အတွက် ရောက်လာခြင်းဖြစ်ပါသည်။ အသင်သည် တမန်တော်မြတ်(صلى الله عليه وسلم)ထံမှ တစ်ဆင့် ဟဒီးစ်ဆင့်ပြန်သည်ဟု ကျွန်ုပ်သတင်းရခဲ့သည်။ ထိုအခါ ဟဇရသ်အဗူဒရ်ဒါ(ရသွေ့)က အမိန့်ရှိသည်။ အသင်က တခြားစီးပွားရေးအတွက် လာတာမဟုတ်ဘူးလား။ သူကပြောသည်။ မဟုတ်ပါဘူး။ အဗူဒရ်ဒါ(ရသွေ့)က မေး

တယ်။ ဒါ့အပြင် တခြားလုပ်ငန်းစဉ် တစ်ခုခုကြောင့် လာတာမဟုတ်ဘူးလား။ သူကပြောတယ်။ မဟုတ်ပါဘူး။ ထိုအခါ ဟဇရသ် အဗူဒရ်ဒါ(ရသွေ့)က အမိန့်ရှိတယ်။ ကျွန်ုပ်သည် မုချကေန် တမန်တော်မြတ်(صلى الله عليه وسلم) ဤသို့မိန့်တော်မူနေသည်ကို ကြားခဲ့ပါသည်။ "လူတစ်ယောက်သည် ပညာရှာဖွေရန်အတွက် လမ်းတစ်ခုကို ထွက်ခဲ့ရင် အလ္လာဟ်အရှင်မြတ်သည် ထိုသူ့အတွက် ဂျန္နသ်သွားရာလမ်းကို လွယ်ကူစေမည်ဖြစ်သည်။ မုချကေန် ပညာရှာဖွေသော ကျောင်းသားကို သဘောကျနှစ်သက်သောအားဖြင့် ကောင်းကင်တမန်များသည် သူတို့၏ အတောင်များကို ခင်းပေးကြသည်။ ထို့အပြင် အသိပညာ ရှာဖွေဆည်းပူးနေသော သူအတွက် မိုးကောင်းကင်များနှင့် မြေပထဝီတွင် ရှိသောအရာများသာမက ရေထဲ၌ရှိသော ငါးများပင်လျှင် မဂ်ဖေရသ်လွတ်ငြိမ်းချမ်းသာခွင့် တောင်းခံပေးနေကြသည်။ ထို့အပြင် ပညာရှိသောသူသည် ပညာမဲ့၍ အီဗာဒသ်သာလုပ်နေသော ပုဂ္ဂိုလ်ထက် အဘယ်မျှ သာပိုမြင့်မြတ်သနည်းဟူမူ လမင်းသည် တခြားကြယ်တာရာအားလုံးထက် သာပိုမြင့်မြတ်သကဲ့သို့ပင် ဖြစ်ပေသည်။ မုချကေန် သာသနာ့ပညာရင်ဝယ်ပိုက်ထားသော ပုဂ္ဂိုလ်များသည် နဗီတမန်တော်တို့၏ အမွေစားအမွေခံများဖြစ်ပေသည်။ နဗီတမန်တော်တို့သည် ရွှေဒင်္ဂါး၊ ငွေဒင်္ဂါးများကို အမွေအဖြစ်ထားခဲ့သည်မဟုတ်။ သူတို့သည် မိမိတို့၏ အမွေပစ္စည်းများထဲတွင် အသိပညာ အီလင်မ်ကိုသာ ထားခဲ့ကြပေသည်။ အကြင်သူသည် ထိုအီလင်မ်ပညာကို ရယူခဲ့ပါက ၎င်းသည် ပြည့်ဝသော ဝေစုဝေငှကို ရယူလိုက်ခြင်းပင်ဖြစ်ပေသည်။

(အိဗ်နုမာဂျာဟ်ကျမ်း၊ ဟဒီးစ်နံပါတ် ၂၂၃၊ အလ်ဗာနီ(رحمة الله عليه)က ထိုဟဒီးစ်ကို ဆွဟီးဟ်လို့ပြောထားပါသည်။ သို့သော် တချို့သုတေသီများက ဤဟဒီးစ်၏ စနဒ်ကွင်းဆက်ကို ချည့်နဲ့သည် (ဒွအီးဖ်) ဖြစ်သည်ဟု သတ်မှတ်ကြပေသည်။)

**¶...** ဤဟဒီးစ်တော်မှ သိရသည်မှာ နဗီတမန်တော်များသည် အီလင်မ်အသိပညာကိုသာလျှင် အမွေအဖြစ် ထားခဲ့ပေသည်။ အီလင်မ်ဆိုသည်မှာ အထောက်အထားဖြင့် သိရှိရသောအသိ၊ အထောက်အထားနှင့်တကွ ရရှိသောအသိကို ခေါ်ဆိုကြောင်း ထင်ရှားပေသည်။ သတ်က်လီးဒ်ကမူ အထောက်အထားမရှိသော၊ အထောက်အထားမဲ့ နောက်လိုက်မှုပြုခြင်းကို ခေါ်ဆိုပေသည်။ ထို့ကြောင့် သတ်က်လီးဒ်သည် အီလင်မ်နှင့် ဝေးဝေးကပင် မပတ်သက်ပေ။ အနည်းငယ်မျှပင် မပတ်သက်ပေ။

ဒီကနေသိရသည်မှာ သတ်က်လီးဒ်လုပ်ကြသော ပညာရှင်များသည် ပညာရှင်များ အုပ်စုထဲမှ ထွက်သွားပေသည်။ နဗီတမန်တော်တို့၏ အမွေပစ္စည်းနှင့်လည်း မထိုက်တန်သူများ၊ လက်မဲ့ဖြစ်သူများ ဖြစ်ပေသည်။ နဗီတမန်တော်တို့သည် ရွှေဒင်္ဂါး၊ ငွေဒင်္ဂါးများကို ထားခဲ့သည်မဟုတ်။ အီလင်အသိပညာများကို ထားခဲ့ကြတာ ဖြစ်ပေသည်။ အီလင်မ်အသိပညာမရှိပဲ သတ်က်လီးဒ်သာလုပ်နေကြသော၊ သတ်က်လီးဒ်သမား၊ အိုလမာပညာရှင်များသည် နဗီတမန်တော်တို့၏ အမွေစားအမွေခံများ မဟုတ်ကြပေ။

**(၇)**

عَنْ عَبْدِ اللَّهِ بْنِ مَسْعُودٍ، قَالَ :قَالَ رَسُولُ اللَّهِ صَلَّى اللَّهُ عَلَيْهِ وَسَلَّمَ» :خَيْرُ النَّاسِ قَرْنِي ثُمَّ الَّذِينَ يَلُونَهُمْ، ثُمَّ الَّذِينَ يَلُونَهُمْ، ثُمَّ يَأْتِي قَوْمٌ بَعْدَ ذَلِكَ تَسْبِقُ أَيْمَانُهُمْ شَهَادَاتِهِمْ أَوْ شَهَادَاتُهُمْ أَيْمَانَهُمْ

အဗ်ဒုလ္လာဟ်အိဗ်နေ့ မက်စ်အူးဒ်(ရသွေ့)သခင်ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ်(صلى الله عليه وسلم) အမိန့်ရှိတော်မူသည်။ ခေတ်တကာခေတ်တိုင်းတွင် အကောင်းဆုံးခေတ်မှာ ငါကိုယ်တော်မြတ်၏ ခေတ်ပင်ဖြစ်သည်။ ဒုတိယအကောင်းဆုံးမှာ ထို့နောက် လာသည့်ခေတ် ဖြစ်သည်။ တတိယအကောင်းဆုံးမှာ ထို့နောက် လာသောခေတ်ပင် ဖြစ်ပေသည်။ ထို့နောက်ပိုင်းတွင် ဤကဲ့သို့သော သူများပေါ်လာပေလိမ့်မည်။ ၎င်းတို့သည် သက်သေထွက်ဆိုမှု မတိုင်မီ ကျိန်ဆိုကြပေလိမ့်မယ်။ ကျိန်ဆိုမှု မတိုင်မီ သက်သေထွက်ဆိုကြပေလိမ့်မည်။

(သိရ်မိဇီကျမ်း၊ ဟဒီးစ်နံပါတ် ၃၈၅၉။ ရှိုင်းခ်အလ်ဗာနီ( رحمة الله عليه)က ဤဟဒီးစ်ကို ဆွဟီးဟ်ဟု ပြောထားပါသည်။)

ကိုးကားချက်။ ။ ဤဟဒီးစ်တော်တွင် တမန်တော်မြတ်( صلى الله عليه وسلم)က ခေတ် ၃ ခေတ် ကောင်းကြောင်းကို သတင်းပေးထားပေသည်။ ထိုခေတ် ၃ ခေတ်၌ ရှိခဲ့ကြသော လူတို့၏ လမ်းစဉ် မဇ်ဟဗ်သည် ကုရ်အာန်နှင့် ဟဒီးစ်ဖြစ်ပေသည်။ ထိုခေတ်များတွင် မျက်လုံးများ ဇွတ်မှိတ်၍ အကြီးအကဲ တစ်ဦးဦး အီမာမ်တစ်ပါးပါး အာလင်မ်တစ်ပါးပါး၏ နောက်ကို လူတို့ပြေးမလိုက်ကြပေ။ သို့သာမက လူတိုင်းသည် အထောက်အထားများနှင့် တကွကြည့်၍ သာသနာအပေါ်တွင် လျှောက်လှမ်းခဲ့ကြပေသည်။ ၎င်းတို့သည်

قال الله قال الرسول

အလ္လာဟ်အရှင်မြတ် မိန့်တော်မူသည်။ ရစူလ်တမန်တော်မြတ် မိန့်တော်မူသည်ဟူသော အချက်များအပေါ်တွင် မိမိတို့၏ အသက်များကိုပင် စတေးခဲ့ကြပေသည်။ ထို့နောက်ပိုင်းတွင် စတုတ္ထခေတ်၏ မကောင်းမှုများထဲမှ အထူးအားဖြင့် မုသား သက်သေထွက်ဆိုမှုများ ဖြစ်လာလိမ့်မည်ဟု တမန်တော်မြတ်က မိန့်တော်မူထားပေသည်။ သို့ဖြစ်သောကြောင့် အေသ္သေဗအ် လုပ်သောမုအ်မင်န်သည် မိမိ၏ သာသနာအထဲမှ အထောက် အထားတစ်ခုခုကို သိလိုလျှင် ထိုခေတ်ကြီး ၃ ခေတ်တွင် ရှာဖွေ ရပေမည်။ ထို့နောက်ပိုင်းတွင်တော့ မွတ်စ်လင်တို့အတွင်းတွင် ပေါ်ပေါက်လာခဲ့သော ကိစ္စရပ်များထဲမှာ အလားတူ ကိစ္စရပ်မျိုး တစ်စုံတစ်ရာ ထိုခေတ် ၃ ခေတ်တွင် မရှိပါက ယင်းကိစ္စကို အချည်းအနှီးဟု မှတ်ယူဆုံးဖြတ်၍ စွန့်ပစ်ရပေမည်။ သို့ဖြစ်ရာ အကောင်းဆုံး ခေတ်ကြီး ၃ ခေတ်တွင် သတ်ကလီးဒ်သည် မရှိခဲ့ပေရာ သတ်ကလီးဒ်သည် အကျိုးမဲ့ အချည်းအနှီး ကိစ္စသာ ဖြစ်ကြောင်း၊ မုအ်မင်န်သည် အကျိုးမဲ့ကိစ္စရပ်မှ ဥပက္ခာပြုရမည် ဖြစ်ကြောင်း ပေါ်လွင်ထင်ရှားသွားပေသည်။

**(၈)**

وعن ابن عمر قال :قال رسول الله صلى الله عليه وآله وسلم» :من تشَبَّه بقوم فهو منهم«

အဗ်ဒုလ္လာဟ်အိဗ်နေ့မက်စ်အူးဒ်(ရသွေ့)ထံမှ ဆင့်ပြန်ချက် လာရှိသည်။ တမန်တော်မြတ်(صلى الله عليه وسلم)မိန့်တော်မူသည်။ အကြင်

သူသည် အုပ်စုတစ်စုနှင့် တူဆင်အောင် ပုံတူကူးမည်ဆိုလျှင် ထိုသူသည် ယင်းအုပ်စုထဲမှပင် ဖြစ်သည်။
(အဗူဒါဝူးဒ်ကျမ်း၊ ဟဒီးစ်နံပါတ် ၄၀၃၁)
ကိုးကားချက်။ ။ ခရစ်ယာန်များသည် ၎င်းတို့ကိုယ်တိုင် တီထွင်ယုံကြည်ထားကြသော ရှင်မဿဲ၊ ရှင်မာကု၊ ရှင်လုကာ၊ ရှင်ယောဟန်စသည့် ဒီ ၄ ခုစလုံးသည် မှန်ကန်သော အင်ဂျီလ် အခန်းများဖြစ်သည်ဟု ခရစ်ယာန်များက မှတ်ယူထားကြပေသည်။ စင်စစ်မှာတော့ ဒီအခန်းများသည် တစ်ခန်းနှင့် တစ်ခန်း မတူကွဲပြားသော သီးခြားစီရှိသော လမ်းစဉ်များဖြစ်ပေသည်။ ယနေ့ခေတ် တချို့သူများက အီမာမ်ကြီး ၄ ပါးကို မှန်ကန်သည်ဟု ပြောကြပေသည်။ စင်စစ်မှာမူ ထိုအီမာမ်ကြီး ၄ ပါးတွင် မြောက်မြားစွာသော ကွဲလွဲမှုများတွေ့ရပေသည်။ အဘယ်မျှ တွေ့ရသနည်းဟူမူ ကိစ္စတစ်စုံတစ်ရာကို အီမာမ်တစ်ပါးထံတွင် ဟလားလ်ဟု မှတ်ယူ၍ နောက်အီမာမ်တစ်ပါးထံတွင် ထိုကိစ္စကိုပဲ ဟရာမ်ဟု မှတ်ယူတာမျိုး တွေ့ရှိရပေသည်။

- ဟဇရသ်မုအားဇ်(ရသွေ)၏ ဟဒီးစ်ကို သုတေသနပြုခြင်း

عَنِ الْحَارِثِ بْنِ عَمْرٍو أَخِي الْمُغِيرَةِ بْنِ شُعْبَةَ، عَنْ أُنَاسٍ مِنْ أَهْلِ حِمْصَ، مِنْ أَصْحَابِ مُعَاذِ بْنِ جَبَلٍ، أَنَّ رَسُولَ اللَّهِﷺ لَمَّا أَرَادَ أَنْ يَبْعَثَ مُعَاذًا إِلَى الْيَمَنِ، قَالَ :

"كَيْفَ تَقْضِي إِذَا عَرَضَ لَكَ قَضَاءٌ؟، قَالَ :أَقْضِي بِكِتَابِ اللَّهِ، قَالَ :فَإِنْ لَمْ تَجِدْ فِي كِتَابِ اللَّهِ؟، قَالَ :فَبِسُنَّةِ رَسُولِ اللَّهِﷺ قَالَ :فَإِنْ لَمْ تَجِدْ فِي سُنَّةِ رَسُولِ اللَّهِﷺ وَلَا فِي كِتَابِ اللَّهِ؟، قَالَ :أَجْتَهِدُ رَأْيِي وَلَا آلُو، فَضَرَبَ رَسُولُ اللَّهِﷺ صَدْرَهُ، وَقَالَ : الْحَمْدُ لِلَّهِ الَّذِي وَفَّقَ رَسُولَ رَسُولِ اللَّهِ لِمَا يُرْضِي رَسُولَ اللَّهِ

တမန်တော်မြတ်(صلى الله عليه وسلم)က ဟဇရတ်မုအားဇ်(ရသေ)ကို ယီမင်နိုင်ငံသို့ စေလွှတ်တော်မူသောအခါ မိန့်တော်မူသည်။ အကယ်၍ အသင့်ထံပါးတွင် ဆုံးဖြတ်ရန် တစ်စုံတစ်ရာ ရောက်ရှိလာလျှင် အသင်မည်သို့ ဆုံးဖြတ်မည်နည်း။ ထိုအခါ ဟဇရတ်မုအားဇ်က လျှောက်ထားသည်။ ကျွန်ုပ်သည် အလ္လာဟ်အရှင်မြတ်၏ ကျမ်းတော်အတိုင်း ဆုံးဖြတ်ပါမည်။ တမန်တော်မြတ် (صلى الله عليه وسلم) က မေးသည်။ အကယ်၍ အလ္လာဟ်အရှင်မြတ်၏ ကျမ်းတော်မြတ်ထဲမှာ မတွေ့ရလျှင်ရော။ ထိုအခါ ဟဇရတ်မုအားဇ်က လျှောက်ထားသည်။ တမန်တော်မြတ်(صلى الله عليه وسلم)၏ စွန္နဟ်တော်ဖြင့် ဆုံးဖြတ်ပါမည်။ တမန်တော်မြတ်က မိန့်သည်။ အကယ်၍ စွန္နဟ်တော်ထဲမှာ မတွေ့ရလျှင်ရော။ သူက လျှောက်ထားသည်။ ကျွန်ုပ် အိဂျ်တိဟာဒ်လုပ်ပါမည်။ လုံးဝ ပေါ့လျော့မည်မဟုတ်ပါ။ ထိုအခါ တမန်တော်မြတ်(صلى الله عليه وسلم)က ၎င်း၏ရင်ဘက်ကို လက်ဖြင့်ပုတ်၍ မိန့်တော်မူသည်။ အလ္လာဟ်အရှင်မြတ်ကို ကျေးဇူးတင်ပါသည်။ ထိုအရှင်မြတ်သည် ရစူလ်တမန်တော်၏ သံတမန်ကို ရစူလ်တမန်တော်နှစ်သက်သော ကိစ္စရပ်ဖြင့် သောင်ဖီးက်စွမ်းအား ချီးမြှင့်တော်မူခဲ့သည်။ ဒါရိမီကျမ်း၊ ဟဒီးဆ်နံပါတ် 168)

(ဤဟဒီးစ်သည် ဒွအီးဖ်ဖြစ်သည်။ ဤဟဒီးစ်၏ စနဒ်နှင့် ပတ်သက်၍ အီမာမ်သရ်မီဇီက အမိန့်ရှိပါသည်။

لانعرفه إلا من هذا الوجه وليس إسناده عندي بمتصل

¤ အဓိပ္ပာယ်။ ။ ကျွန်ုပ်တို့သည် ဤဟဒီးစ်၏ မည်သည့်စနဒ်ကိုမှ မသိရပါ။ ဤဟဒီးစ်၏ စနဒ်သည် ကျွန်ုပ်ထံတွင် متصل ကွင်းဆက်

အဆက်မပြတ်သော စနဒ်မဟုတ်ပေ။ သရ်မီဇီကျမ်း အတွဲ ၁ စာမျက်နှာ ၄၁၃)
အီမာမ်ဂျိုဇကာနီကအမိန့်ရှိသည်။

هذا حديث باطل سالت من لقيته من أهل العلم بالنقل عنه فلم أجد له طريقا غير هذا والحارث بن عمرو هذا مجهول وأصحاب معاذ من أهل حمص لايعرفون ومثل هذا الإسناد لايعتمد عليه في أصل من أصول الشريعة (مرقاة الصعود حاشية أبوداود ج 1 ص 149)

ဤဟဒီးစ်သည် အခြေအမြစ်မရှိပါ။ ကျွနုပ်သည် တွေ့ရသမျှ ပညာရှင်များကို ဤဟဒီစ်နှင့်ပတ်သက်၍ မေးမြန်းခဲ့ရာ ဤဟဒီးစ်နှင့်ပတ်သက်၍ တခြားလမ်းကြောင်းကို မတွေ့ရပေ။ ဤဟဒီးစ်တွင် ဟာရစ်အိဗ်နေ့အမရ်ဆိုသည့် ပုဂ္ဂိုလ်သည် မဂျ်ဟူလ် ဖြစ်ပေသည်။ လူမသိသူမသိ ပုဂ္ဂိုလ်ဖြစ်သည်။ ဟဇရသ်မုအားဇ်ထံက ဆင့်ပြန်သော ဟမ်ဆ္ဂပြည်နယ်သားများသည်လည်း လူမသိသူမသိများ ဖြစ်ကြသည်။ ဤကဲ့သို့သော စနဒ်အပေါ်တွင် ရှရီအသ်၏ ကိစ္စရပ်တစ်စုံတစ်ရာဆုံးဖြတ်ရန်တွက် အမှီပြုလို့မရပေ။

ဤဟဒီးစ်သည် မှန်ကန်သည်ဟု ယူဆလိုက်တယ်ဆိုပါစို့....

(၁) ဟဇရသ်မိုအားဇ်ကို ယနေ့တိုင် ယီမင်နိုင်ငံတွင် သတ်က်လီးဒ်လုပ်နေကြသလော။ အကယ်၍ မလုပ်ဘူးဆိုလျှင် ဒီဝါကီအဟ်ကို အကြောင်းခံပြီး သေဆုံးကွယ်လွန်သွားပြီးဖြစ်သော အီမာမ်၏ သတ်က်လီးဒ်လုပ်ခြင်း အဘာယ်မျှ အတည်ဖြစ်နိုင်မည်နည်း။

## "အဆ္ဂဟာဗီကလ်နူဂျုူးမ်" ဆိုသည့် ဟဒီးစ်၏ သုတေသန

((أصحابي كالنجوم بإيهم اقتديتم اهتديتم))) (جامع بيان العلم وفضله, باب بيان ما يلزم الناظر في اختلاف العلماء. الشريعة للآجرى رقم 1227)

“ငါ၏သာဝကများသည် ကြယ်တာရာများကဲ့သို့ ဖြစ်သည်။ ၎င်းတို့ အနက် မည်သူ့နောက်ကိုပဲ လိုက်လိုက်လမ်းမှန်တရား ရပေမည်။”
ရှိုက်ခ်အလ်ဗာနီ(رحمة الله عليه)က “စိလ်စိလဟ် ဒွအီဖဟ်ဝလ်မောင်ဝ်ဒွူအဟ်ကျမ်း တွဲ ၁ စာ ၁၄၄ တွင် ဤဟဒီးစ်ကို ဆင့်ပြန်ပြီးသည့်နောက် ဤဟဒီးစ်သည် လုပ်ကြံလီဆည်ထားသော ဟဒီးစ်ဖြစ်ပါသည်ဟု အမိန့်ရှိထားသည်။
ဤဟဒီးစ်ကို အိဗ်နေ့အဗ်ဒွလ်ဗရ်က “ဂျာမိအုဗယာနိလ်အိလ်မ်ကျမ်း တွဲ ၂၊ စာ ၈၂ မှာ စလာမ်အိဗ်နေ့ဆူလိုင်မ်ကို ဤလမ်းကြောင်းဖြင့်

حدثنا الحارث بن غصين عن الأعمش عن أبي سفيان عن جابر

ဟု မရ်ဖူးအ်အနေနဲ့ ဆင့်ပြန်ထားပေသည်။ ထိုဟဒီးစ်နှင့်ပတ်သက်၍ အိဗ်နုအဗ်ဒွလ်ဗရ်က အမိန့်ရှိသည်။

هذا إسناد لاتقوم به حجة لان الحارث بن غصين مجهول

ဤစနဒ်ဖြင့် အထောက်အထားမပြုနိုင်ပေ။ အကြောင်းမှာ ဤစနဒ်ထဲတွင် الحارث بن غصين ဆိုသည့် ပုဂ္ဂိုလ်သည် “မဂျ်ဟူးလ်” ပုဂ္ဂိုလ်ဖြစ်ပေသည်။
အိဗ်နေ့ဟဇ်မ်က အမိန့်ရှိသည်။ ဤဟဒီးစ်၏ ဆင့်ပြန်ချက်သည် “စာကိသ်ွ” (အတည်မပြုနိုင်သော) ဆင့်ပြန်ချက် ဖြစ်ပေသည်။ ဤဟဒီးစ်တွင်ပါဝင်သော အဗူဆွဖ်ယာန်းဆိုသည့် ပုဂ္ဂိုလ်သည် ဒွအီးဖ်ဖြစ်ပေသည်။ ၎င်းနောက်စလားမ်အိဗ်နေ့ဆူလိုင်းမ်ဆိုသည့် ပုဂ္ဂိုလ်သည် လုပ်ကြံလီဆယ်ထားသော ဟဒီးစ်များကို ဆင့်ပြန်သောသူဖြစ်သည်။ ဤဆင့်ပြန်ချက်သည်လည်း လုပ်ကြံလီဆယ်ထားသော ဟဒီးစ်များထဲမှ ဖြစ်သည်မှာ သံသယဖြစ်ဖွယ် မရှိပေ။

## ဆွဟာဗဟ်တို့၏ အဆိုအမိန့်များနှင့် သတ်က်လီးဒ်

□ မိုဟမ္မဒ်အိဗ်နေ့ဆီရီးန်က အမိန့်ရှိသည်။

سمعت ابن عمر يقول :لايزال الناس على الطريق ما اتبعوا الأثر(المدخل .السنن الكبرى للبيهقى ص 197)

ကျွန်ုပ်သည် အဗ်ဒွလ္လာဟ်အိဗ်နေ့အုမရ် ဤသို့အမိန့်ရှိနေသည်ကို ကြားခဲ့ပါသည်။ လူတို့သည် ဟဒီးစ်နောက်ကို လိုက်နေကြသ၍ လမ်းမှန်ပေါ်တွင် အမြဲရှိနေကြပေမည်။

□ အဗ်ဒွလ္လာဟ်အိဗ်နေ့မစ်အူးဒ်(ရသွေ့)က အမိန့်ရှိသည်။

عن عبدالله بن مسعود قال :اتبعوا ولا تبتدعوا ولايقلدن أحدكم دينه عالما (طبراني كبير.رجاله رجال الصحيح)

အသင်တို့သည် အိသ်သီဗအ် လုပ်ကြကုန်။ ဗိဒ်အသ်တရားသစ်တီထွင်မှုများမလုပ်ကြနှင့်။ ထို့ပြင်အသင်တို့ထဲမှ မည်သူပင်ဖြစ်စေ မိမိ၏သာသနာရေးကိစ္စ၌ မည်သည့်ပညာရှင်၏ သတ်က်လီးဒ်ကိုမှ လုံးဝမလုပ်ကြနှင့်။

## အီမာမ်ကြီး ၄ ပါးနှင့် တခြားပညာရှင်များ၏ ရပ်တည်ချက်

● အီမာမ်အဗူဟနီဖာဟ်၏ အဆိုများ

1- لا يحل لأحد أن ياخذ بقولنا مالم يعلم من أين أخذناه (الانتقاء لابن عبد البر,ص:130- غاية الاماني فى الرد على النبهاني ج 1 ص 69)

"ကျွန်ုပ်တို့စကားကို ကျွန်ုပ်တို့မည်သည့် နေရာမှ ယူခဲ့သလဲဆိုတာကို မသိသူသည် ထိုစကားကို ယူခွင့်မရှိ။"

အီမာမ် ဆွာဟိဗ်၏ ဖော်ပြပါစကားမှ အချက်နှစ်ချက် လုံးဝ ပေါ်လွင်ထင်ရှားပေသည်။ တစ်ချက်မှာ မုဂ္ဂသဟီးဒ်တစ်ဦးသည်

မည်သည့်ပုဂ္ဂိုလ်၏ သတ်က်လီးဒ်မှ လုပ်ခြင်းမပိုင်ပေ။ အကြောင်းမှာ အကယ်၍ ထိုသူသည် မုဂ်ျသဟီးဒ်ဖြစ်ပါက ၎င်းအတွက်လည်း အထောက်အထားသိရန် အရေးကြီးပေသည်။ မဟုတ်လျှင် ထိုသူသည် မုဂ်ျသဟီးဒ်ပင် မဟုတ်တော့ပေ။ အလားတူပင် သာမန်လူတစ်ယောက်အတွက်လည်း သတ်က်လီးဒ်လုပ်ခြင်း မပိုင်ပေ။ အကြောင်းမှာ အီမာမ်အဗူဟနီဖဟ်၏ ဖော်ပြပါစကားတွင် သာမန်လူနှင့် မုဂ်ျသဟီးဒ်တို့ကို သီးခြားခွဲ၍ မိန့်ထားခြင်းမရှိပါ။ ဒုတိယတစ်ချက်မှာ သာသနာရေးတွင် မည်သူတစ်ဦး တစ်ယောက်၏ အဆိုအမိန့်ပေါ်တွင် ဖြစ်စေ ထိုလုပ်ရပ်၏ အထောက်အထား တစ်စုံတစ်ရာ ရှရီအသ်တော်မှ မသိရသေးသရွေ့ ကာလပတ်လုံး ကျင့်သုံးခြင်းလုံးဝမပိုင်ပေဟူ၍ ဖြစ်သည်။

2- حرام على من لم يعرف دليلى أن يفتى بكلامي. (ميزان الكبرى للشعراني ج 1 ص 55)

ကျွန်ုပ်၏ အထောက်အထားကို မသိသောသူသည် ကျွန်ုပ်၏ အဆိုအတိုင်း ဖသ်ဝါပေးခြင်း ဟရာမ်ဖြစ်သည်။

3- فإننا بشر نقول القول اليوم ونرجع عنه غدا . (صفة صلاة النبي ص: 37)

ကျွန်ုပ်တို့သည် လူသားများဖြစ်ကြသည်။ ယနေ့စကားတစ်ခွန်းပြောမည်။ မနက်ဖန် ထိုစကားကို ရုတ်သိမ်းမည်။

4- ويحك يعقوب لاتكتب كل شىء مني فاني قد ارى الراى اليوم واتركه غداوارا الراى غدا واتركه بعد غد. (ميزان كبرى للشعراني ص 62)

အို....ယအ်ကူးဗ်(အဗူယူစွဖ်) ပျက်စီးလိမ့်မယ်နော်။ ငါ့ထံကကြားရသမျှကို လိုက်မရေးလေနှင့်။ အကြောင်းမှာ ဒီကနေ့ ငါတစ်မျိုးအမြင်ထားသည်။ မနက်ဖန် ထိုအမြင်ကို ရုတ်သိမ်းကောင်း ရုတ်

သိမ်းလိုက်မည်။ မနက်ဖန် တစ်မျိုး ငါမြင်မည်။ တစ်ဘက်ခါ ရောက်လျှင် ထိုအမြင်ကို ငါစွန့်လွှတ်လိုက်ကောင်း စွန့်လွှတ်လိုက်မည်။

5- إذا صح الحديث فهو مذهبي . (إيقاظ همم أولى الأبصارنصائح خلافى ص 51)

ဟဒီးစ် မှန်ကန်ခိုင်လုံခဲ့ပါက ထိုဟဒီးစ်သည် ငါ၏ လမ်းစဉ် မဇ်ဟဗ်ပင်ဖြစ်ပေသည်။

**(၆)**

إذاقلت قولا يخالف كتاب الله وخبر الرسول فاتركواقولي

(ايقاظ همم اولى الابصارنصائح خلافى ص 50)

ငါသည်မဆ်အလဟ် တစ်ခုကို တင်ပြခဲ့မည်။ ၎င်းနောက် ထိုမဆ်အလဟ်သည် အလ္လာဟ်အရှင်မြတ်၏ ကျမ်းတော်နှင့် ရစူလ်တမန်တော်၏ ဟဒီးစ်တော်နှင့် ဆန့်ကျင်နေပါက ငါ၏ စကား၊ အဆိုကို စွန့်လွှတ်လိုက်ကြလေကုန်။

## အီမာမ်မာလစ်က်၏ အဆိုအမိန့်များ

(1) إنما أنا بشرأخطى وأصيب فانظروا فى رأيي فكل ما وافق الكتاب والسنة فخذوه وكل مالم يوا فق الكتاب والسنة فا تركوه (جامع بيان العلم لابن عبد البرج 1 ص 32 واصول الاحكام لابن حزم ج6 ص139)

ငါသည် လူသားပင် ဖြစ်သည်။ ငါ၏အမြင်သည် မှားနိုင်သည်။ မှန်သည်လည်း ဖြစ်နိုင်သည်။ ထို့ကြောင့် ငါ၏ အဆိုအမိန့်များကို စမ်းစစ်ကြလေကုန်။ ကုရ်အာန်၊ ဟဒီးစ်နှင့်ကိုက်ညီပါက ယူကြလေကုန်။ ကုရ်အာန်၊ ဟဒီးစ်နှင့် ဆန့်ကျင်ပါက စွန့်လွှတ်ကြလေကုန်။

(2) ليس أحد بعد النبي إلا ويؤخذ من قوله ويترك إلا النبي

(جامع بيان العلم لابن عبد البرج1 ص32 وأصول لابن حزم ج6 ص139)

နဗီတမန်တော်မြတ်၏ နောက်တွင် သူ၏ပြောသမျှ စကားများကို နာခံခြင်းခံရသူဟူ၍ တစ်ဦးတစ်ယောက်မှ မရှိတော့ပေ။ တမန်တော်မြတ်မှ လွဲ၍ တခြားသူများ၏ စကားတွေကို လက်ခံခြင်းခံရသည်လည်းရှိသည်။ စွန့်လွှတ်ခြင်းခံရသည်လည်း ရှိပေသည်။

## အီမာမ်ရှာဖိအီ၏ အဆိုများ

(1) إذاصح الحديث فهومذهبي (المجموع للنووى ج1 ص63)

ဟဒီးစ်မှန်ကန်ခဲ့ပါက ယင်းဟဒီးစ်သည် ငါ၏မဇ်ဟဗ်ပင်ဖြစ်သည်။

(2) إذا وجدتم في كتابي خلاف سنة رسول فقولوا بسنة رسول الله ودعوا ماقلت (مناقب الشافعي للبيهقى ج1 ص372 )

အသင်တို့သည် တမန်တော်မြတ်(صلى الله عليه وسلم)၏ ဟဒီးစ်တော်နှင့် ဆန့်ကျင်၍ ငါ၏စာအုပ်တွင် တစ်ခုခုတွေ့ရပါက အသင်တို့သည် တမန်တော်မြတ်(صلى الله عليه وسلم)၏ ဟဒီးစ်တော်ကိုသာ ယူ၍ ငါ၏အဆိုကို စွန့်ပစ်လိုက်ကြကုန်။

(3) كل حديث عن النبي صلى الله عليه وسلم فهو قولي وإن لم تسمعوه مني (مناقب الشافعي لابن أبي حاتم ص93)

တမန်တော်မြတ်(صلى الله عليه وسلم)ထံမှ အတည်ဖြစ်သော ဟဒီးစ်သာလျှင် ငါ၏အဆိုဖြစ်သည်။ ယင်းအဆိုကို အသင်တို့ ကျွန်ုပ်ဆီမှ မကြားခဲ့လျှင် ဖြစ်ပါစေ။

(4) كل متكلم من الكتاب والسنة فهو الحق وماسواه هذيان (توالي التاسيس لابن حجرص 110)

အကြင်သူသည် ကုရ်အာန်ကျမ်းတော်မြတ်နှင့် ဟဒီးစ်တော်မှ စကား ပြောပါက ထိုစကားသည် မှန်ပေသည်။ ယင်းမှလွဲ၍ ကျန်သော အရာများသည် ပေါက်ပန်းလေးဆယ်များသာဖြစ်သည်။

## အီမာမ်အဟ်မဒ်ဗင်ဟမ်ဗလ်၏ အဆိုများ

(1) لاتقلدوني ولاتقلدوا مالكا ولا الشافعي ولا الأوزاعي ولا الثواري وخذوا من حيث أخذوا (إعلام الموقعين ج 2 ص 302)

အသင်တို့သည် ငါ့ကို သတ်က်လီးဒ်မလုပ်ကြနှင့်။ မာလစ်က်ကို လည်း သတ်က်လီးဒ် မလုပ်နှင့်။ ရှာဖီအီကိုလည်း သတ်က်လီးဒ် မလုပ်နှင့်။ အောင်ဇာအီနှင့် ဆောင်ရီတို့ကိုလည်း သတ်က်လီးဒ် မလုပ်နှင့်။ ၎င်းတို့မည်သည့်နေရာမှ ယူကြသလဲ။ အသင်တို့သည် လည်း ထိုနေရာမှပင် ယူကြကုန်။

(2) من رد حديث رسول الله صلي الله عليه وسلم فهو على شافا هلكة (صفة صلاة النبي للألباني ص 53)

အကြင်သူသည် တမန်တော်မြတ်(صلى الله عليه وسلم)၏ ဟဒီးစ်တော် ကို ပယ်ချလိုက်ပါမူ ထိုသူသည် ပျက်စီးမှု၏ နှုတ်ခမ်းဝပေါ်မှာ ရှိသည်။

အလ္လာဟ်မာအာဗိစ်ဒ်စင်န်ဒီ(رحمة الله عليه)က “ဒုရေမုခ်သားရ်၏ အောက်ခြေအဖွင့်ကျမ်း သွဝါလိအုလ်အန်ဝါးရ်ကျမ်းတွင် ရှိုင်းခ်အဗူ မအာလီထံမှ တစ်ဆင့် ဖော်ပြသည်။

وجوب تقليد مجتهد معين لا حجة عليه لامن جهة الشريعة ولامن جهة العقل (الإرشاد ط:أنصاري,ص 63)

မုဂ်ျသဟီးဒ်တစ်ဦးတစ်ယောက်ကို သီးသန့် သတ်က်လီးဒ် လုပ်ခြင်းသည် အရေးကြီးကြောင်း မည်သည့်အထောက်အထားမှ မရှိပေ။ ဦးနှောက်အသိဉာဏ်၏ အထောက်အထားလည်း မရှိသလို၊ ရှရီအသ်ရဲ့အထောက်အထားလည်း မရှိပေ။

## သတ်က်လီးဒ်လုပ်သောသူ သိရန်

အဗ်ဒွလ္လာဟ်အဗ်နေ့မုအ်သမိရ်က အမိန့်ရှိသည်။

لافرق بين بهيمة تنقاد وإنسان يقلد (إعلام الموقعين, مطبوعة شراف المطالعة ج1 ص 127)

သတ်က်လီးဒ်လုပ်သောသူ လူသားနှင့် တိရစ္ဆာန်၏ ကြားတွင် မည်သည့်ကွာခြားမှုမှ မရှိပေ။

## သတ်က်လီးဒ်သည် ဒုက္ခတစ်ခု

هذا كلهن آفة التقليد وعدم رجوعهم الى مدارك الحديث (الإرشاد مطبوعة أنصاري,ص 166)

ဤအမှားယွင်းများ အားလုံးသည် သတ်က်လီးဒ်၏ ဒုက္ခကြောင့်ပင်ဖြစ်သည်။ ထို့အပြင် လူတို့သည် ဟဒီးစ်ကျမ်းဂန်များဘက်သို့ မလှည့်ကြခြင်းကြောင့်သာလျှင် ဖြစ်ပေသည်။

ရှားဟ်အဗ်ဒွလ်အဇီးဇ်မုဟဒ္ဒစ်ဒေဟ်လဝီက အမိန့်ရှိသည်။

علماء رابہ پیغمبری رسانیده شود بلکہ بخداے (فتاوی عزیزیہ ج 1 ص 176)

သတ်က်လီးဒ်လုပ်သော သူများသည် ပညာရှင် အိုလမာများကို တမန်တော်များအဆင့် သာမက ဖန်ဆင်းရှင်ကိုးကွယ်ရှင်၏ အဆင့်ကိုပင် ပေးလိုက်ကြပေသည်။

ထက်၍ မိန့်ကြားသည်မှာ

من اللطائف التي قلما ظفربها جدلي كحفظ مذهبه ما اخترعه المتأخرون لحفظ مذهب أبي حنيفة وهي عدة قواعد يردون بها جميع ما يحتج بها عليهم من الأحاديث الصحيحة (فتاوى عزيزية ص62)

နောက်ပိုင်းပညာရှင်တို့သည် အချို့သော ဥပဒေများကို ထွင်လိုက်ကြသည်။ ယင်းသို့ ထွင်ခြင်းမှာ အီမာမ်အဗူဟနီဖာဟ်၏ မဇ်ဟဗ်ကို ထိန်းသိမ်းကြရန်အတွက်ဖြစ်သည်။ ထိုလုပ်ရပ်သည် လောက၏ ရယ်ဖွယ်ကိစ္စရပ်များထဲမှ ဖြစ်ပေသည်။ ယင်းဥပဒေများကို အကြောင်းပြု၍ ၎င်းတို့သည် မှန်ကန်ခိုင်လုံသော ဟဒီးစ်တော်များကို ပယ်ချပစ်လိုက်ကြသည်။ အကြောင်းမှာ ထိုဟဒီးစ်တော်များသည် ၎င်းတို့၏ မဇ်ဟဗ်နှင့် ဆန့်ကျင်နေသောကြောင့်ဖြစ်သည်။

ဟနဖီတို့၏ အီမာမ်ကြီး အီမာမ်ကရ်ခီသည် ဤသည်နှင့်ပတ်သက်၍ ဥပဒေတစ်ရပ် ပြောကြားထားသည်ကို ရှုကြပါလေကုန်။

أن كل أية تخالف قول أصحابنا فإنها تحمل على النسخ أو على الترجيح والأولى ان تحمل على التأويل من جهة التوفيق (أصول الكرخي: اصول فقه حنفي (مترجم:دكتور حافظ شهباز حسن) اصل 28 ط مكتبة افكار اسلامي, لاهور)

ကျွန်ုပ်တို့၏ လမ်းစဉ်မတ်ဇ်ဟဗ်ဝင် အီမာမ်ကြီးများ၏ အဆိုနှင့် ဆန့်ကျင်သော အာယသ်တိုင်းကို ထိုအာယသ်တော်သည် အမိန့်ပလတ်ခြင်းခံလိုက်ရပြီ၊ သို့မဟုတ် အခြားအထောက်အထားတစ်ခုခု ယင်းအာယသ်အပေါ်တွင် ဦးစားပေးခြင်းခံရမည်ဟု မှတ်ယူရပေမည်။ အကောင်းဆုံးကတော့ ထိုအာယသ်နှင့် ပတ်သက်၍ အခြားပုံစံမျိုး အဓိပ္ပာယ်ဖွင့်ဆိုလိုက်ခြင်းပင် ဖြစ်ပေသည်။ ပမာအားဖြင့်

ဤအာယသ်တော်နှင့် ကျွန်ုပ်တို့ မဇ်ဟဗ်ဝင် ပညာရှင်တို့၏ အဆို များကြားတွင် ကိုက်ညီသွားရန်အတွက် တခြားပုံစံဖြင့် အဓိပ္ပာယ် ဖွင့်ဆိုလိုက်ရမည်ဖြစ်ပေသည်။

အီမာမ် ကရ်ခီက နောက်ထပ် ဥပဒေတစ်ခုကို ရေးသားထားသည်ကို ကြည့်ရှုကြပါကုန်။

“ကျွန်ုပ်တို့ မဇ်ဟဗ်ဝင် ပညာရှင်တို့၏အဆိုနှင့် ဆန့်ကျင်သော ဟဒီးစ်တိုင်းသည် မန်ဆူးခ်ဖြစ်သည်ဟု မှတ်ယူရမည်။ သို့မဟုတ် ထိုဟဒီးစ်သည် သူနှင့် အဆင့်အတန်းတူသော ဟဒီးစ်နှင့် ဆန့်ကျင် နေသည်ဟု မှတ်ယူရပေမည်။ အကယ်၍ ဤကဲ့သို့သော အထောက် အထားတစ်စုံတစ်ရာ မတွေ့ပါက ကျွန်ုပ်တို့၏ ဟနဖီပညာရှင်များ၏ အဆို ပို၍ အလေးသာသွားစေရန် ဦးစားပေးရသော ပုံစံများကို ကျင့်သုံးရပေမည်။ သို့မဟုတ် အဆိုနှစ်ခု ကိုက်ညီသွားအောင် ညှိနှိုင်းရပေမည်။ အထောက်အထားရှိနေပါက ထိုသို့ပင် ပြုရပေ မည်။ သို့ဖြစ်သောကြောင့် အကယ်၍ အမိန့်ပလတ်ခြင်း ခံလိုက်ရပြီ ဟူသော အထောက်အထားရှိနေခဲ့ပါက ယင်းဟဒီးစ်ကို မန်ဆူခ် အမိန့်ပလတ်ခြင်း ခံလိုက်ရပြီဟု မှတ်ယူရပေမည်။ အကယ်၍ အထောက်အထားက တခြားပုံစံမျိုး အတည်ဖြစ်နေပါက ထိုအခါ တွင် ကျွန်ုပ်တို့သည် ယင်းကိစ္စဘက်သို့ လှည့်ကြပေမည်။

(ညွှန်းခဲ့ပြီ ဥပဒေသ ၂၉)

ရှားဟ်ဝလီယွလ္လာဟ်မိုဟဒ္ဒိစ်ဒေဟ်လဝီက အမိန့်ရှိသည်။

وحنفيان براے احكام مذهب خود اصل چند تراشيدند الخاص بين فلا يلحقه البيان, العام قطعي كالخاص , المفهوم المخالف غير معتبر,الترجيح بكثرة الرواة غير معتبر, الزيادة على الكتاب نسخ (فرق العينين, ص:186)

ဟနဖီတို့သည် မိမိတို့ မဇ်ဟဗ်၏ အမိန့်ပညတ်ချက်များ ခိုင်မာစေရန်အတွက် မိမိတို့ဘာသာ တီထွင်ထားကြသော ဥပဒေ တချို့ရှိပေသည်။ အဟ်နာဖ်တို့သည် မိမိတို့၏ မဇ်ဟဗ် ခိုင်မာစေရန်အတွက် ဥပဒေ တချို့တီထွင် ထားကြပါသည်။ ဥပမာ ခါးဆွဲသည် ရှင်းလင်းပေသည်။ ယင်းကို ရှင်းလင်းရန် နောက်ထပ် မလိုအပ်တော့ပေ။ العام သည် ခါးဆွဲကဲ့သို့ပင် ယတိပြတ် အတိအကျရည်ညွှန်းသော အရာဖြစ်ပေသည်။ ဆန့်ကျင်ဘက် သဘောပေါက်သော အဓိပ္ပာယ်သည် အတည်မဖြစ်ပေ။ ရာဝီဆင့်ပြန်သူတို့ တိုးလာခြင်းကြောင့် ဦးစားပေးခြင်း လုပ်ပိုင်ခွင့်မရှိပေ။ အလ္လာဟ်အရှင်မြတ်၏ ကျမ်းတော်အပေါ်တွင် တိုးခြင်းသည် ကုရ်အာန်ကျမ်းမြတ်ကို نسخ လုပ်ခြင်းပင် ဖြစ်သည်။

ရှာဟ်ဝလီဟွလ္လာဟ်မူဟဒ္ဒစ်ဒေဟ်လဝီက အမိန့်ရှိပါသည်။

التقليد حرام ولايحل لأحد أن يأخذ قول أحد غير رسول الله بلا برهان (عقد الجيد , ص 39، صديقي، لاهور)

သတ်က်လီးဒ်သည် ဟရာမ်ဖြစ်သည်။ မည်သူပင်ဖြစ်စေ တမန်တော်မြတ်(صلى الله عليه وسلم)မှ လွဲ၍ အခြားသူတစ်ဦး တစ်ယောက်ရဲ့ အဆိုကို အထောက်အထားမဲ့ ယူခြင်းသည် ဟလားလ်မဟုတ်ပေ။

အလ္လာဟ်မာ ဇမခ်ရှရီးက ဤပမာကို ရေးသည်။

إن كان للضلال أم فالتقليد أمه فلا جرم أن الجاهل يقلد (أطواق الذهب،ص:47،مطبوعة مصر)

အကယ်၍ လမ်းမှားခြင်းမှာ မိခင်တစ်ဦးဦးရှိမည်ဆိုလျှင် သတ်က် လီးဒ်သည် ထိုလမ်းမှားခြင်း၏ မိခင်ပင်ဖြစ်ပေသည်။ မုချကေန် ဂျာဟိလ် ပညာမဲ့သာလျှင် သတ်က်လီးဒ်လုပ်သည်။

အလ္လာဟ်မာအိဗ်နေ့ဟဇ်မ်(رحمة الله عليه)က အမိန့်ရှိသည်။

واهرب عن التقليد فهو ضلالة أن المقلد في سبيل الهالك (معيار الحق مطبوعة رحماني، ص: 252)

သတ်က်လီးဒ်မှ ဝေးဝေးပြေးပါ။ အကြောင်းမှာ သတ်က်လီးဒ်သည် လမ်းမှားခြင်းပင် ဖြစ်သည်။ မုချကေန် သတ်က်လီးဒ်လုပ်သော ပုဂ္ဂိုလ်သည် ပျက်စီးရာလမ်းကြောင်း အပေါ်တွင်ရှိပေသည်။

မုလ္လာမုအီးန်ဟနဖီက အမိန့်ရှိပေသည်။

من يعتصب بواحد معين غير رسول الله ويرى أن قوله هو الصواب الذي يجب اتباعه دون الأئمة الأخرين فهو ضال جاهل بل قد يكون كافرا يستتاب فان تاب وإلا قتل فإنه متى اعتقد أنه يجب على الناس اتباع واحد بعينه من هذا الأئمة دون الأخرين فقد جعله بمنزلة النبي وذلك كفر (دراسات اللبيب ، ص: 125،ط: لاهور)

(အိဗ်နုလ်အဇ်က ဟေဒါယာကျမ်း၏ အောက်ခြေတွင် ရေးပါသည်။) အကြင်သူသည် တမန်တော်မြတ်(صلى الله عليه وسلم)မှ လွဲ၍ တခြား တစ်စုံတစ်ဦး၏ လမ်းစဉ်ပေါ်တွင် ပေ၍နေကာ ထိုပုဂ္ဂိုလ်၏ စကား သာလျှင် မှန်သည်။ ထိုပုဂ္ဂိုလ်၏ နောက်ကိုသာ လိုက်ရမည်။ တခြား မည်သည့် အီမာမ်မှ မမှန်ကန်ပေဟု မှတ်ယူပါက ထိုပုဂ္ဂိုလ်သည် လမ်းမှားနေသော ဂျာဟိလ် ဖြစ်ပေသည်။ သို့သာမက ကာဖိရ်ပင် ဖြစ်သွားပေမည်။ ၎င်းကိုသောင်ဗဟ် လုပ်ခိုင်းရပေမည်။ အကယ်၍

ထိုသူသည် သောင်ဗဟ်လုပ်လိုက်ပါက ကောင်းပေသည်။ သို့မဟုတ်ပါက ၎င်းကို သတ်ပစ်ရပေမည်။ အကြောင်းမှာ ထိုပုဂ္ဂိုလ်သည် လူတို့အနက် တစ်ဦးတစ်ယောက်ကို သီးသန့်ပြု၍ နောက်လိုက်ရမည်ဟု အရေးကြီး ဝါဂျစ်ဗ်အဖြစ် ယုံကြည်လိုက်ပေရာ တစ်နည်းအားဖြင့် ယင်းပုဂ္ဂိုလ်အား နဗီ၏ အဆင့်ကို ပို့လိုက်သလို ဖြစ်သွားပေမည်။ ဤအချက်သည် ကုဖုရ်ဖြစ်စေသော အချက်ပင် ဖြစ်ပေသည်။

ဂျလာလူဒ္ဒီးန်ရူမီသခင်က အမိန့်ရှိသည်။

پس خطر باشد مقلد را عظیم
ازره ورهزن زشیطان رجیم
(مثنوي مولانا روم مطبوعه نول کشور، ص:449)

"သတ်က်လီးဒ်လုပ်သောသူကို မောင်းထုတ်ခြင်းခံရသော ဓားပြရှိုင်သွာန်က ကြီးစွာ အန္တရာယ်ပေးလျက်ရှိပေသည်။"

စအ်ဒီရှီရာဇီသခင်က အမိန့်ရှိသည်။

خلاف پیغمبر کسے ره گزید که هر گز بمنزل نه خواهد رسید (بوستان، ص:17،ط : نول کشور)

"နဗီနှင့်ဆန့်ကျင်၍ အကြင်သူသည် လမ်းတစ်လမ်းကို ရွေးချယ်ခဲ့ပါက ထိုသူသည် မည်သည့်အခါမှ ပန်းတိုင်ကို ရောက်မည် မဟုတ်ပေ။

## သတ်က်လီးဒ်လုပ်သောသူသည် ဝလီမဖြစ်နိုင်

إن الولي الكامل لايكون مقلدا إنما ياخذ علمه من العين التي أخذ منها

المجتهدون (ميزان كبرى للشعراني ص:20،ط:مصر)

ပြည့်ဝသော ဝလီသည် သတ်က်လီးဒ်လုပ်သူ မဟုတ်ပေ၊ သို့သာမက သူသည် မုဂ်ျသဟီးဒ်များ ရယူသော စမ်းအိုင်ကနေပဲ မိမိအသိပညာကို ရယူပေသည်။

## ဝလီ၏ လမ်းစဉ်နှင့် ပတ်သက်၍ ရှိုင်းခ်အဗ်ဒွလ်ကာဒိရ်ဂျီလာနီ၏ ဖသ်ဝါ

ရှိုင်းခ်အဗ်ဒွလ်ကာဒိရ်ဂျီလာနီကို မေးမြန်းခြင်းခံရသည်။

هل كان لله وليا على غير اعتقاد أحمد بن حنبل فقال ما كان ولا يكون (طبقات ابن رجب ج1 ص 102)

“အီမာမ်အဟ်မဒ်ဗင်န်ဟမ်ဗာလ် ထားရှိသော အကီဒဟ် ယုံကြည်ချက် ရှိသောသူများမှလွဲ၍ အခြားသူသည် ဝလီဖြစ်ခဲ့ပါသလော။ ထိုအခါ အဗ်ဒွလ်ကာဒိရ်ဂျီလာနီသခင်က အမိန့်ရှိသည်။ ဘယ်တုန်းကမှလည်း မရှိခဲ့သလို ဘယ်တော့မှလည်း ရှိမည်မဟုတ်ပေ။

## မော်လာနာ ရရှီးဒ်အဟ်မဒ်ဂန်ဂိုဟီ ကိုယ်တိုင် ပြောပြသော သတ်က်လီးဒ် အကြောင်း

ဒေယိုဗာန်ဒီ ဟာကီးမုလ်အွမ္မသ်က သူ၏ဘဝကိုယ်ရေးကျမ်း (သပ်ဖ်ကိရသွလ်ရရှီးဒ် စာ ၁၂၁၊ ပုံနှိပ် ဗိလာလီပရက်စ်စာဒူရာဟ်) တွင် ရေးသည်။

"သတ်က်လီးဒ်လုပ်သော အဝါမ်လူထု သာမက အထူးပုဂ္ဂိုလ်များ ပင်လျှင် အဘယ်မျှ တစောက်ကန်းကြသည်ဟူမူ အကယ်၍ မုဂ်ျသဟီဒ် (ဆိုလိုသည်မှာ မိမိမဇ်ဟဗ်၏ အီမာမ်နှင့်ဆန့်ကျင်၍ အာယသ်တစ်ခု၊ ဟဒီးစ်တစ်ခု နားထဲတွင် ကြားသွားပါမူ ၎င်း၏ နှလုံးသားတွင် စိတ်ချမ်းသာမှု မရှိတော့ပေ။ ဆောက်တည်ရာမရ ဖြစ်သွားပေသည်။) သို့သာမက ဦးစွာ ပထမ နှလုံးသားထဲတွင် ငြင်း ဆိုမှု ပေါ်ပေါက်ပေသည်။ ထို့နောက် လိုရာအဓိပ္ပာယ် ဆွဲသုံးဖို့ရန် အတွက် သောက ဖြစ်လေတော့သည်။ ၎င်း၏ သအ်ဝီးလ်ဆွဲယူမှု သည် အဘယ်မျှဝေးလံသော အဓိပ္ပာယ်ဖြစ်နေပါစေ၊ အဘယ်မျှ ခိုင်လုံသော အထောက်အထားက ၎င်းနှင့်ဆန့်ကျင်နေပါစေ၊ မုဂ်ျသ ဟီဒ်၏ အထောက်အထားသည် ဤကိစ္စတွင် အမြင်သက်သက်သာ ဖြစ်နေပါစေ၊ မိမိ၏နှလုံးသားတွင် ထိုအမြင်သည်အဘယ်မျှ အဆင့် မရှိသည့် အမြင်ဖြစ်နေပါစေ၊ သို့သော်လည်း မိမိလမ်းစဉ်ကို ကူညီ ထောက်ပံ့ရေးအတွက် လိုရာအဓိပ္ပာယ်ဆွဲခြင်းကို အရေးကြီးသည် ဟု မှတ်ယူကြပေတော့သည်။ မိမိမုဂ်ျသဟိဒ်၊ မိမိမဇ်ဟဗ်ကို စွန့် လွှတ်၍ ရှင်းလင်းတိကျသော ဟဒီးစ်အပေါ် ကျင့်သုံးဖို့ရန်အတွက် နှလုံးသားက လက်မခံနိုင်ကြပေ။"

## မော်လာနာ အရှ်ရဖ်အလီ ထာနဝီ၏ကြေကွဲမှု

မော်လာနာအရှ်ရဖ်အလီထာနဝီက သတ်က်လီးဒ်လုပ်သော သူများ နှင့် ပတ်သက်၍ သောကဖြစ်ကာ သွေးမျက်ရည် ဤသို့ ကျလေ သည်။

"သတ်က်လီးဒ်သမားတို့သည် မိမိတို့အီမာမ်ကို အမှားကင်းကြသူ များ၊ ခြောက်ပြစ်ကင်းသဲလဲစင်များ၊ မုချကေန် မှန်ကန်ရမည့်သူများ၊ ၎င်းတို့အမိန့်ကို နာခံရန် ဖရ်ဇ်ဖြစ်သူများဟု ယူဆသတ်မှတ်၍ သံနို ဌာန် ဤသို့ချထားကြသည်။ ဟဒီးစ်သည် မည်သို့ပင် မှန်ကန်စွာ လာ နေပါစေ၊ မိမိအီမာမ်၏ အဆိုနှင့်ဆန့်ကျင်၍ -မိမိအီမာမ်၏ အဆို သည် စိတ်ကူးယဉ် အတွေးသာ ဖြစ်နေပါစေ- သို့တိုင်အောင်လည်း ဟဒီးစ်အထဲတွင် အနာအဆာများကို ရှာကြလေတော့သည်။ ဟဒီးစ် ထဲတွင် အနာအဆာများကို မရမက ရှာ၍ သို့မဟုတ် ထိုဟဒီးစ်ကို မဖြစ်နိုင်သော၊ ဝေးလံသော အဓိပ္ပာယ် ဆွဲယူပြီးတဲ့နောက် ဟဒီးစ် ကို ပယ်ချကြပေတော့သည်။ မိမိအီမာမ်၏ အဆိုကိုတော့ ဘယ် တော့မှ မစွန့်လွှတ်ကြပေ။"(ဖသာဝါအင်မ်ဒါဒီယာကျမ်း တွဲ၊ စာ ၉၅)

ရှိုင်းခုလ်ဟင်မ်ဒ် မော်လာနာ မဟ်မူဒွလ်ဟစန်ဆွာဟစ်ဗ်က အမိန့် ရှိပါသည်။

"ဆွဟာဗဟ်၏ စကားသည် အကယ်၍ ဟဒီးစ်နှင့်ဆန့်ကျင်ပါက၊

သအ်ဝီးလ်လည်း ဆွဲယူဖွင့်လို့ မရပါက ထိုဆွဟာဗဟ်၏ အဆိုကို စွန့်လွှတ်ပစ်ရမည်။ ထို့အပြင် တမန်တော်မြတ်(صلى الله عليه وسلم)၏ လုပ်ရပ်များကို မိမိတို့၏ မဇ်ဟဗ်အဖြစ် သတ်မှတ်ရပေမည်။" (အဟ်စန္ဒလ်ကူရာ စာမျက်နှာ ၁၄၇)

## အိဗ်လီးစ်၏ လှည့်ကွက်

အဗ်ဒွလ်ရဟ်မာန်းအလ်ဂျောင်ဇီက မိမိ၏ "تلبيس إبليس"ကျမ်းတွင် ရေးသည်မှာ "ရှိုင်သွာန်သည် လမ်းနှစ်လမ်းမှ ဤအွမ္မသ်၏ ယုံကြည်ချက်ထဲသို့ ဝင်ပေသည်။ (၁) ဘိုး၊ဘွား၊ဘီ၊ဘင်တို့နောက် သတ်က်လီးဒ်လုပ်ခြင်းလမ်းကြောင်း၊ (၂) အောက်ခြေထိ မရောက်နိုင်သော ကိစ္စရပ်များတွင် စဉ်းစားတွေးခေါ်မှု လုပ်ရန် တိုက်တွန်းခြင်းလမ်းကြောင်းတို့ ဖြစ်သည်။ အိဗ်လီးစ်သည် ဤဒုတိယလမ်းဖြင့် လူတို့ကို အမျိုးမျိုးသော ပျက်စီးမှု၊ ရှုပ်ထွေးမှုထဲသို့ ထည့်လိုက်ပေသည်။ ပထမလမ်းနှင့် ပတ်သက်၍ကား အိဗ်လီးစ်သည် သတ်က်လီးဒ် သမားများကို ဤသို့မှိုင်းတိုက်လေသည်။

"အထောက်အထားများသည် တစ်ခါတစ်လေ မထင်မရှားဖြစ်တတ်သည်။ အမှန်တရား၏လမ်းဟူ၍ မြုပ်ကွယ်သွားတတ်သည်။ ထို့ကြောင့် သတ်က်လီးဒ်လုပ်ခြင်းသည်သာ အန္တရာယ် အကင်းဆုံးလမ်းဖြစ်သည်။"

ဤသတ်က်လီးဒ် လုပ်ခြင်းလမ်းတွင် လူတော်တော်များများ လမ်း

မှားခဲ့ကြပေသည်။ အများအားဖြင့် ထိုသတ်ကလီးဒ်ကြောင့်သာလျှင် လူတို့အပေါ် ပျက်စီးမှုများ ရှိလာခဲ့ကြပေသည်။ ယဟူဒီနှင့် နဆ္စရာနီ တို့သည် မိမိတို့၏ ဘိုး၊ဘေး၊ဘီ၊ဘင်များ ဘုန်းကြီးရဟန်းများကို သတ်ကလီးဒ် မုချကေန် လုပ်ခဲ့ကြသည်။ ထို့နောက် အစ္စလာမ် မတိုင်မီ ဂျာဟိလ်အမိုက်ခေတ်က လူတို့သည်လည်း ထိုသတ်ကလီးဒ် အပေါ်တွင်သာ ဇွတ်ပေ၍နေခဲ့ကြသည်။

ရှင်းရှင်းလေးသိထားရမည်မှာ ၎င်းတို့ မိမိတို့၏ သတ်ကလီးဒ်လုပ် ခြင်းကို ချီးမွမ်းဖို့ ခြေကုတ်ယူထားသည့် အထောက်အထားသည် ပင်လျှင် သတ်ကလီးဒ်ကို ရှုတ်ချနေသော အထောက်အထားဖြစ် နေပေသည်။ အကြောင်းမှာ အထောက်အထားများ မထင်မရှား ဖြစ်သွားသောအခါ၊ အမှန်တရား၏လမ်း မြှုပ်ကွယ်နေသောအခါ သတ်ကလီးဒ်ကို စွန့်လွှတ်လိုက်သင့်ပေသည်။ သို့မှသာ လမ်းမှားသို့ မကျရောက်မည် ဖြစ်သည်။

ဒုတိယအချက်မှာ သတ်ကလီးဒ်လုပ်သောသူသည် မိမိဦးနှောက်၏ အကျိုးပြုပုံကို ဖျက်ဆီးလိုက်ပေသည်။ အကြောင်းမှာ ဦးနှောက် အသိဉာဏ်ချီးမြှင့်ထားခြင်းမှာ တွေးခေါ်စဉ်းစားရန် အတွက်ဖြစ် သည်။ အလ္လာဟ်အရှင်မြတ်သည် အကြင်သူအား ဤအလင်းရောင် ချီးမြှင့်ထားပါလျက် ထိုသူသည် မိမိ၏ အလင်းကို ငြိမ်းသတ်၍ အမှောင်ထဲတွင် လျှောက်လှမ်းပါက သူ၏ ဤလှုပ်ရှားမှုသည် ဉာဏ် မမှီသော၊ မိုက်မဲသော လှုပ်ရှားမှုဖြစ်ပေလိမ့်မည်။ မဇ်ဟဗ်လမ်းစဉ်

နောက်ကို လိုက်ကြသော မဇ်ဟဗ်ဝါဒီတို့၏ ဦးနှောက်ထဲတွင် ပုဂ္ဂိုလ်တစ်ဦးတစ်ယောက်၏ အဆင့်အတန်းမြင့်မားမှု အမြဲရှိနေပေလိမ့်မည်။ ထိုပုဂ္ဂိုလ်က ပြောသမျှကို မစဉ်းစားမဆင်ခြင်၊ မတွေးတောဘဲ၊ လက်ခံခြင်းနှင့် နောက်လိုက်ခြင်းကို ပြုကြပေသည်။ ဤသည်ပင်လျှင် လမ်းမှားခြင်း ဖြစ်ပေသည်။

ဟာရိဆ်ဗင်န်ဟူးသ္ဂ်က ဟဇရသ်အလီ(ရသွေ့)ထံမှ ဆင့်ပြန်သည်။ ၎င်းက ဟဇရသ်အလီကို လျှောက်ထားသည်။ သွက်လ်ဟာဟ်(ရသွေ့)နှင့် ဇိုဘိုင်းရ်(ရသွေ့)တို့သည် အမှားအပေါ်တွင် ရှိကြသည်ဟု သခင်ထင်ပါသလား။ ထိုအခါ ဟဇရသ်အလီက အမိန့်ရှိသည်။ အို… ဟာရိဆ် မင်းရှုတ်ထွေးမှုတွေထဲ ကျရောက်နေပြီ။ အမှန်တရားကို သိဖို့ဆိုတာ လူတွေနဲ့ ကြည့်ရတာမဟုတ်ဘူး။ သို့သာမက အမှန်တရားကို အရင်သိအောင်လုပ်ပါ။ ထိုအခါ အမှန်ပေါ်တွင် လျှောက်လှမ်းနေကြသော သူများကိုလည်း သိသွားပေလိမ့်မည်။

(သလ်ဗီစေ့အဗ်လီးစ်ကျမ်း၊ အူရ်ဒူဘာသာပြန်ဖြင့် စာမျက်နှာ ၁၁၂၊ ၁၁၃၊ ဖာရူကီဒေဟ်လီမှ ပုံနှိပ်သည်)

## သတ်က်လီးဒ်နှင့်မန်သွေစ်က်(ယုတ္တိဗေဒ)

**မိုကလီဒ်၏ ပြောဆိုချက်** “ဒီးန်ကတစ်ခုတည်းပဲ ဖြစ်တယ်။ အဲဒီဒီးန်ကို ဒီးန် ၄ ခုအဖြစ် ပုံဖော်လိုက်တာက လုံး၀ လွဲမှားမှုပဲဖြစ်တယ်။ ဒီလိုစောဒကတက်တာဟာ ဒီးန်နဲ့မဇ်ဟဗ်ကို နားမလည်တဲ့အတွက်

ကြောင့်မို့လို့ ဖြစ်တယ်။ အစ္စလာမ်က جنس တစ်ခုဖြစ်တယ်။ အဲဒီ جنس ရဲ့အောက်မှာ أنواع အမျိုးအစားတွေအများကြီး ရှိတယ်။ ဟနဖီ၊ ဟမ်ဗလီ၊ ရှာဖီအီ၊ မာလီကီတို့ပါ။ ဉပမာအားဖြင့် သတ္တဝါဆိုတာက جنس အမျိုးအန္တယ်တစ်ခုဖြစ်တယ်။ အဲဒီ جنس ရဲ့အောက်မှာ أنواع အမျိုးအစားတွေ အများကြီး ရှိတယ်။ ဉပမာ လူ၊ နွား၊ ဆိတ်၊ မြည်း အစရှိသဖြင့်ပေါ့။”

**ထိုအတွက် အဖြေ**

جنس ဆိုတာက သူနဲ့အတူ مقوم فصل မရှိသရွေ့ ماهيت متقررة မဖြစ်ဘူး။ ခင်ဗျားမသိဘူးလား။ حيوان (သတ္တဝါ)က သူနဲ့အတူ فصول مقومة မရှိသမျှ ကာလပတ်လုံး သူဟာ ဘယ်တော့မှ حيوان ဆိုပြီး အတည်မဖြစ်ဘူး။

ဒါကြောင့်မို့လို့ အကယ်၍ အစ္စလာမ်က جنس တစ်ခုဖြစ်တယ်ဆိုရင် အဲဒီ جنس က ဟနဖီလမ်းစဉ်၊ ရှာဖီအီလမ်းစဉ် အစရှိတဲ့ အရာတွေ ထက်ကို အရင်ဆုံး ရှိခဲ့တာလား။ ဒါမှမဟုတ် မရှိခဲ့ဘူးလား။ အကယ်၍ အစ္စလာမ်က အရင်ရှိခဲ့တယ်။ မုချကေန် အရင်ရှိခဲ့တယ် ဆိုရင် အစ္စလာမ်က جنس မဟုတ်ပါဘူး။ အကယ်၍ အစ္စလာမ်က အရင်ရှိခဲ့တာ မဟုတ်ဘူးဆိုရင် အစ္စလာမ်ရဲ့အစက မဇ်ဟဗ် ၄ ခုက နေ ဖြစ်ခဲ့တယ်ဆိုတဲ့ သဘောဖြစ်နေမယ်။

جنس ဆိုတာ منطق မှာဘာကိုပြောတာလဲ။

المقول على كثيرين مختلفين بالحقائق

ဟာကီကသ်တွေ မတူတဲ့အရာများစွာအတွက် သုံးနှုန်းခြင်းခံရတဲ့ كلي ကို جنس ဟုခေါ်တယ်။ ဉပမာ သတ္တဝါ။

نوع ဆိုတာ ဘာကိုပြောတာလဲ။

المقول على كثيرين متفقين بالحقائق
ဟကီကသ်တူတဲ့ အရာများစွာအတွက် သုံးနှုန်းခြင်းခံရတဲ့ كلي ကို نوع လို့ခေါ်ပါတယ်။ ဥပမာ လူ။
ဒါကြောင့် ဖွင့်ဆိုချက်ပင်လျှင် မတူတဲ့ جنس နဲ့ نوع တို့ဟာ ဘယ်လိုလုပ် တစ်ခုတည်း ဖြစ်နိုင်မလဲ။ نوع အတွက် مقوم ဖြစ်တဲ့ فصل ဟာ جنس အတွက် مقسم ဖြစ်တယ်ဆိုတာကို منطق လောကမှာ အလုပ်သမားအဖြစ်နေတဲ့ သူတောင် သိနိုင်တယ်။ ဥပမာ حيوان ဆိုတဲ့ جنس နဲ့အတူ فصل ဖြစ်တဲ့ (ناطق) ကပူးပေါင်းလာပြီဆိုရင် သူဟာ انواع တွေဖြစ်သွားအောင်လုပ်တဲ့အတွက် သူက مقوم ဖြစ်မယ်။ သူ့ကို جنس ရဲ့ مقسم လို့ခေါ်မယ်။ ဘာလို့လဲဆိုတော့ သူ့ကြောင့် جنس က ပုံစံအမျိုးမျိုး ကွဲပြားသွားခဲ့ပါတယ်။
منطق ကိုလေ့လာ လိုက်စားနေတဲ့ ကျောင်းသားတွေ သိပါတယ်။ لاشيء ဆိုတဲ့ အဆင့်မှာရှိတဲ့အရာနဲ့အတူ مقوم فصل က ပူပေါင်းပြီးတော့ သူ့ကို نوع ဖြစ်အောင် မလုပ်သရွေ့ကာလပတ်လုံး သူဟာ متقرر မဖြစ်ပါဘူး။
နောက်တစ်ချက်က ဟနဖိ မဇှဟဗ်ကို ဟနဖိယသ်ထက်အရင်မွတ်စ်လင်မ်လို့ပြောခြင်းက (တစ်နည်းအားဖြင့်) مقوم فصل မရှိဘဲနဲ့ متقرر جنس ဖြစ်တယ်လို့ လက်ခံလိုက်ခြင်းပါပဲ။ ဒါက دأب المحصلين နဲ့ ဆန့်ကျင်ဘက် ဖြစ်ပါတယ်။

## ကယောစ် သုံးသပ်ချက်နှင့် ဖေကဟ်ရှုတောင့်

كانت عائشة يؤمها عبدها ذكوان من المصحف (البخاري، الأذان، إمامة العبد والمولى، تعليقا)

"အာအီရှာ (ရသေ္ဘ)၏ ကျွန် ဇက်ဝါန်သည် ကုရ်အာန်ကျမ်းတော် မြတ်ကို ကြည့်၍ သူမကို ဦးဆောင်ကာ နမာဇ်ဝတ်ပြုလေ့ရှိသည်။"

▪ သို့သော်ဖေကဟ်က ဘာပြောသလဲဆိုတော့

لو نظرالمصلی إلی المصحف وقرأ منه فسدت صلاته لا إلی فرج امرأة بشهوة
(الأشباه والنظائر، ط:هند، ص:434)

"အကယ်၍ နမာဇ်ဖတ်သူတစ်ဦးသည် သူ့နမာဇ်ထဲတွင် ကုရ်အာန်ကို ကြည့်ပြီးဖတ်မယ်ဆိုရင် သူ့နမာဇ်ပျက်သွားမယ်။ သို့သော် အမျိုးသမီးတစ်ယောက်ရဲ့ အရှက်အင်္ဂါကို လိင်စိတ်ကြွနေတဲ့ အနေထားနဲ့ ကြည့်မယ်ဆိုရင် သူ့နမာဇ်မပျက်ဘူး။"

ယခုဦးနှောက်ကို ကိုးကွယ်ပုံ၊ ဖေကဟ်ကျွမ်းကျင်ပုံကို ကြည့်ပါ။ ဘယ်လိုပါလိမ့်။ ကုရ်ကျမ်းတော်မြတ်ကို ကြည်လို့ နမာဇ်ထဲမှာ အာရုံနှောင့်စေတယ်တဲ့။ "အမလေ့ကဆီးရ်" ဖြစ်တယ်တဲ့။ ဒါပေမဲ့ အရှက်အင်္ဂါကို လိင်စိတ်ကြွပြီးတော့ အာရုံထားကြည့်တာကျတော့ နမာဇ်အပေါ်မှာ ဘာမှထိခိုက်မှုမရှိဘူးတဲ့။ ဒါက အံ့သြစရာပါပဲ။

عَنْ أَبِي مَسْعُودٍ، قَالَ قَالَ رَسُولُ اللَّهِ صلى الله عليه وسلم" يَؤُمُّ الْقَوْمَ أَقْرَؤُهُمْ لِكِتَابِ اللَّهِ فَإِنْ كَانُوا فِي الْقِرَاءَةِ سَوَاءً فَأَقْدَمُهُمْ فِي الْهِجْرَةِ فَإِنْ كَانُوا فِي الْهِجْرَةِ سَوَاءً فَأَعْلَمُهُمْ بِالسُّنَّةِ فَإِنْ كَانُوا فِي السُّنَّةِ سَوَاءً فَأَقْدَمُهُمْ سِنًّا وَلاَ تَؤُمَّ الرَّجُلَ فِي سُلْطَانِهِ وَلاَ تَقْعُدْ عَلَى تَكْرِمَتِهِ إِلاَّ أَنْ يَأْذَنَ لَكَ "

(نسائي، الإمامة، من أحق بالإمامة، ح: 781)

"အဗူမစ်အူးဒ်(ရသေ္ဘ)ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ်(صلى الله عليه وسلم)မိန့်တော်မူသည်။ လူတို့ကို ဦးဆောင်၍ အီမာမ်အဖြစ် လုပ်သင့်သူမှာ ကုရ်အာန်ကျမ်းတော်မြတ်ကို အတတ်ကျွမ်းဆုံးသူဖြစ်သည်။ အကယ်၍ ကုရ်အာန်ကျမ်းတော်မြတ် တတ်

သည့်နေရာမှာ အားလုံးတူနေပါက ဟိဂ်ျရသ် အစောဆုံး ပြုလုပ်သောသူသည် အီမာမ်ပြုလုပ်ရမည်။ အကယ်၍ ဟိဂ်ျရသ် ကိစ္စတွင်လည်း အားလုံးတန်းတူ တူညီနေပါက စွန္နဟ်ကို ပိုသိတဲ့သူ အီမာမ်လုပ်ရမည်။ စွန္နဟ်ကိုသိတဲ့နေရာမှာလည်း အားလုံးတန်းတူ ဖြစ်နေမယ်ဆိုရင် အသက်အကြီးဆုံးသူက အီမာမ်လုပ်ရမည်။ အသင်သည် အခြားနေရာတွင် သွား၍ အီမာမ်မလုပ်ရပါ။ အခြားသူ၏နေရာမှာလည်း သွားပြီးတော့ မထိုင်ရပါ။ သို့သော် ထိုပုဂ္ဂိုလ်က ခွင့်ပြုမှသာလျှင် ထိုင်ခွင့်ရှိသည်။"

စာရှုသူများခင်ဗျာ အထက်ဖော်ပြပါ ဟဒီးစ်ကို ရှုစားပါ။ အဲဒီဟဒီးစ်အထဲမှာ အီမာမသ်အတွက် စည်းကမ်းချက်တွေကို ဖော်ပြထားပါတယ်။ အီမာမ်၏ ခန္ဓာကိုယ် အပြစ်အနာအဆာများမှ လွတ်ကင်းရမည်။ ဥပမာ အီမာမ်သည် မျက်လုံးကန်းနေသူ၊ ခြေကျိုး၊ ခြေမသန်သူ မဖြစ်ရဆိုသော စည်းကမ်းချက်သည် အီမာမ် တစ်ယောက်၏ စည်းကမ်းချက်ဖြစ်ခဲ့ပါမူ တမန်တော်မြတ်(صلى الله عليه وسلم)က မုချကေန် ထိုအချက်ကို မိန့်တော်မူခဲ့မှာဖြစ်တယ်။ အမှန်တကယ်တော့ တမန်တော်မြတ်ရဲ့ လုပ်ပုံကိုင်ပုံဟာ ဒါနဲ့ ဆန့်ကျင်ဘက်ပါပဲ။ မျက်လုံးကန်းတဲ့သူ အီမာမ်လုပ်တဲ့အကြောင်း ဟဒီးစ်တော် မြောက်များစွာ လာရှိထားပါတယ်။

□ အနက်စ်(ရသွေ့)က ဆင့်ပြန်တယ်။

أن رسول الله استخلف ابن أم مكتوم على المدينة مرتين يصلى بهم وهو أعمى
(مسند أحمد، ح:13031، ط:بيت الأفكار،رياض)

"တမန်တော်မြတ်(صلى الله عليه وسلم)သည် မဒီနာ ရွှေမြို့တော်တွင် မိမိ မရှိခိုက် နှစ်ကြိမ်တိုင်တိုင် အဗ်ဒွလ္လာဟ် အိဗ်နေ့ အွမ္မေမက်သူးမ်

ကို မိမိကိုယ်စားလှယ်အဖြစ် ထားရစ်ခဲ့သည်။ သူသည် လူတို့ကို နမာဇ်ဦးဆောင်၍ ဝတ်ပြုလေ့ရှိသည်။ ၎င်းသည် မျက်မမြင် တစ်ဦး ဖြစ်သည်။”

□ أن عتبان بن مالك كان يؤم قومه وهو أعمى (نسائى، الإمامة، إمامة الأعمى، 789)

“အိသ်ဗာအိဗ်နေ့ မာလစ်က်(ရသွေ့)သည် မျက်လုံးမမြင်သော ပုဂ္ဂိုလ် တစ်ဦးဖြစ်သည်။ သူသည် မိမိ၏ မျိုးနွယ်တို့ကို ဦးဆောင်၍ နမာဇ် ဝတ်ပြုလေ့ရှိသည်။”

အံ့သြစရာကောင်းသည်မှာ ဒီဟဒီးစ်တွေရှိနေပါလျက် တချို့လူတွေ က ပြောနေကြသည်။ ခန္ဓာကိုယ်ပိုင်းဆိုင်ရာ ချည့်နဲ့မှု၊ ရောဂနည်းမှု၊ အပြစ်အနာဆာ ရှိတဲ့သူက အီမာမ်လုပ်ဖို့ရန် မထိုက်တန်ဘူးတဲ့။

□ မရာကိယုလ်ဖလာဟ်ကျမ်းရှင်(ဟနဖီ)က အမိန့်ရှိသည်။

ماء البئر النجس الذي وقع فيه حيوان ثم مات وانتفخ فإن عجن بمائها يلقى للكلاب أو يعلف به المواشى وقال بعضهم يباع لشافعي (مراقي الفلاح، ص:21,22)

“ရေတွင်းထဲတွင် တိရစ္ဆာန် တစ်ကောင်ကောင် ကျပြီး သေဆုံးကာ ပုပ်ပွသွားခြင်းကြောင့် မသန့်ဖြစ်သွားသည့် ရေဖြင့် ဂျုံနယ်၍ မုန့် လုပ်ခဲ့ပြီးနောက်မှ ရေမသန့်ကြောင်း သိရှိရပါမူ ထိုဂျုံဖြင့် လုပ်ထား သော မုန့်ကို ခွေးကို ကျွေးလိုက်ရမည်။ ဒါမှမဟုတ် တိရစ္ဆာန်များကို ကျွေးလိုက်ရမည်။ တချို့က ရှာဖေအီ မဇ်ဟဗ်ဝင် တစ်ဦးဦးကို ရောင်းပစ်လိုက်ရမည်ဟု ဆိုသည်။”

! တစောက်ကန်းချက်က နိုင်းပလက်စ်ရောက်နေတာကို ကြည့်ပါဦး။ ခွေးနှင့် အခြား တိရစ္ဆာန်များကိုတော့ ငွေမယူဘဲ အလကားကျွေး

လိုက်ရမည်တဲ့။ သို့သော် ရှာဖိအီ မဇ်ဟဗ်ဝင်ကိုတော့ အလကား မဟုတ်၊ ပိုက်ဆံယူပြီးပေးရမည်တဲ့။

■ ဒါကြောင့်ပဲ အီမာမ်သွဟာဝီက ဒီလိုအမိန့်ရှိခဲ့တယ်။

لا يقلد إلا عصبى أو غبى

အစွဲသမား၊ သို့မဟုတ် ငတုံးသာလျှင် သတ်က်လီးဒ်လုပ်သည်တဲ့။

**<u>အိဂျ်သေဟာဒ်နှင့် သတ်က်လီးဒ်</u>**

မေးမြန်းလိုသည်။ အီမာမ်ကြီးများအရင် အွမ္မသ်ရဲ့ အမြတ်ဆုံး ပုဂ္ဂိုလ်တွေ၊ ဆွဟာဗဟ်တွေနဲ့ သာဗီအီတွေက ဘယ်သူ့ကို သတ်က်လီးဒ်လုပ်ခဲ့ကြသလဲ။

အဖြေကတော့ သူတို့ ဘယ်သူ့ကိုမှ သတ်က်လီးဒ်မလုပ်ခဲ့ကြပါဘူး။ ကုရ်အာန်ကျမ်းတော်မြတ်နဲ့ ဟဒီးစ်တော်တွေအပေါ်မှာပဲ သူတို့ ကျင့်သုံးခဲ့ကြတယ်။ ပြီးတဲ့နောက် အီမာမ်ကြီးများ ရောက်လာခဲ့ ကြတယ်။ သူတို့ ခေတ်အခါကာလမှာ ဟဒီးစ်တွေက တစ်နေရာ တည်းမှာ စုဆောင်းထားခြင်း မရှိခဲ့ကြဘူး။ နောက်ပိုင်းမှ ဟဒီးစ် တွေက တစ်နေရာတည်းမှာ အားလုံး စုပေါင်းမိသွားခဲ့တယ်။

ဒါကြောင့် ကြုံတွေ့ရတဲ့ မဆ်အလဟ် တော်တော်များများမှာ အဲဒီ မဆ်အလဟ်နဲ့ ပတ်သက်ပြီးတော့ ထိုအီမာမ်ကြီးများထံတွင် ဟဒီးစ် မရောက်ရှိခဲ့ပေ။ ထိုအခါ ၎င်းတို့အနက် တချို့က အိဂျ်သေဟာဒ် လုပ်ခဲ့ကြသည်။ နောက်မှ သူတို့၏ အိဂျ်သေဟာဒ်များက ဟဒီးစ်နဲ့ ဆန့်ကျင်သည်ကို သူတို့ သိရှိသွားခဲ့ရတဲ့ အပေါ်မှာ သူတို့က ထိုအဆို ကနေ ပြန်လှည့်ပြီး ရုဂျူအ်လုပ်ခဲ့ကြသည်။

အိဂျ်သေဟားဒ်လုပ်ခြင်းကို စာရှုသူအနေနဲ့ ဥပမာတစ်ခုနှင့် နားလည်နိုင်ပါသည်။ ခင်ဗျား ညအခါ တစ်နေရာမှာ တည်းတယ်။ အီရှာ နမာဇ်ဖတ်ဖို့ လိုအပ်လာတယ်။ သို့သော် ကိဗ်လဟ် ဘယ်ဘက်မှာလည်းဆိုတာ မသိရဘူး။ ထိုအခါ ခင်ဗျားက အိဂျ်သေဟားဒ်လုပ်ပြီး မှန်းဆပြီးတော့ မိမိအိဂျ်သေဟားဒ်နှင့်အညီ အရပ်မျက်နှာ တစ်ခုဘက်ကို လှည့်ပြီးတော့ ကိဗ်လဟ်လို့ ထင်ပြီး နမာဇ်ဖတ်လိုက်မည်။ ဖဂျရ်နမာဇ်ကိုလည်း ခင်ဗျား ထိုအတိုင်းပင် ထိုအရပ်မျက်နှာဘက်လှည့်ပြီးတော့ ဖတ်လိုက်မည်။ နေထွက်လာပြီးတဲ့နောက် ခင်ဗျားသိရတာက ခင်ဗျားသည် မှားယွင်းသော အရပ်မျက်နှာဘက်ကို လှည့်၍ နမာဇ်ဖတ်ခဲ့တယ်ဆိုတာပါပဲ။ ထိုအခါ ခင်ဗျားသည် ဇိုဟိုရ် နမာဇ်ကို ဘယ်အရပ်မျက်နှာဘက်ကို လှည့်၍ ဖတ်မည်နည်း။

ခင်ဗျားအရပ်မျက်နှာ မှားပြီးဖတ်ခဲ့လိုက်တဲ့ အီရှာနမာဇ်နဲ့ ဖဂျရ်နမာဇ်တို့ကတော့ ပိုင်သွားပါမည်။ ထိုနမာဇ်နှစ်ကြိမ်ကို ပြန်ဖတ်ရန်မလိုပါ။ သို့သော် ယခု နေထွက်ပြီးတဲ့နောက်မှာ ခင်ဗျား လှည့်ဖတ်ခဲ့သော အရပ်မျက်နှာ မှားကြောင်း အတိအလင်း သိရှိသွားခဲ့ပေရာ၊ ယခု အမှန်သိရှိသွားတော့ ကိဗ်လဟ် အရပ်မျက်နှာဘက်ကိုသာ ခင်ဗျား လှည့်၍ နမာဇ်ဝတ်ပြုမည်။ ယခုအခါ ကိဗ်လာဟ် ဘယ်ဘက်မှာလည်းဆိုတာ လိုက်ရှာစရာ၊ အိဂျ်သေဟာဒ် လုပ်စရာမလိုတော့ပေ။

အီမာမ်ကြီးများ၏ နည်းလမ်းသည်လည်း ထိုနည်းတူပင်။ သူတို့ ဟဒီးစ်မတွေ့ရှိသော မဆ်အလဟ်များ၌ သူတို့သည် အိဂျ်သေဟားဒ် လုပ်ခဲ့ကြသည်။ သို့သော် နောက်ပိုင်း ၎င်းတို့၏ အိဂျ်သေ

ဟာဒ်တစ်ခုခုက ဟဒီးစ်နှင့် ဆန့်ကျင်သည်ဟု သိရှိသွားသောအခါ ၎င်းတို့သည် ထိုအိဂ်ျသေဟားဒ်မှ ရှုဂျူအ်လုပ်ခဲ့ကြသည်။ နေထွက်ပြီးသည့်နောက်တွင် မိမိလှည့်ဖတ်ခဲ့သော ကိဗ်လဟ် မှားကြောင်း သိရှိရပြီးသည့် နောက်တွင် ထိုအရပ်မျက်နှာဘက်သို့ပဲ ဆက်၍ ဖတ်လို့ မပိုင်တော့သလိုပင် ဖြစ်သည်။ မှန်ကန်သော ကိဗ်လဟ်ကို လှည့်မဖတ်ဘဲ၊ မှားယွင်းသော ကိဗ်လဟ်ကို လှည့်ဖတ်လျှင် ခင်ဗျားရဲ့ နမာဇ်ကို အလ္လာဟ်အရှင် လက်ခံဖို့ ဝေးလေစွ၊ ခင်ဗျားသည် အပြစ်ကျူးလွန်သူတစ်ဦးပင် ဖြစ်သွားပေလိမ့်မည်။

တမန်တော်မြတ်(صلى الله عليه وسلم) ကွယ်လွန်သေဆုံး၍ နှစ်ပေါင်း ၁၄၀၀ ကျော်သွားခဲ့ပေပြီ။ အီမာမ်ကြီးများ ကွယ်လွန်သေဆုံး၍ နှစ်ပေါင်း ၁၂၀၀ ကျော်သွားပေပြီ။ ဆိုကြပါစို့။ ယခု တမန်တော်မြတ်(صلى الله عليه وسلم)နှင့် အီမာမ်ကြီး ၄ ပါးစလုံး အသက်ရှင်၍ လောကကို ပြန်ကြွလာခဲ့မည်။ ပြီးနောက် တမန်တော်မြတ်(صلى الله عليه وسلم) က မိန့်တော်မူမည်။ ဒါကိုလုပ်ကြကုန်။ ထိုအခါ အီမာမ်ကြီးများက ဤသို့ မိန့်မည်။ ထိုသို့ မလုပ်နှင့်။ ဤသို့သာ ပြုလုပ်ကြကုန်ဟု ဆန့်ကျင်၍ အမိန့်ပေးကြမည်ဆိုလျှင် ထိုအခါမျိုး၌ ဘယ်သူ့ အမိန့်ကို နာခံရမလဲ။

ထင်ရှားပါတယ်။ တမန်တော်မြတ်(صلى الله عليه وسلم)၏ အမိန့်ကိုသာ လက်ခံကျင့်သုံးရမည်ဖြစ်သည်။ အီမာမ်ကြီးများ၏ အဆိုကို ပစ်ပယ်လိုက်ရမည် ဖြစ်သည်။ ယခုအခါတွင် ကျွန်ုပ်တို့၏ အကြားတွင် နဗီတမန်တော်မြတ်လည်း မရှိတော့ပေ။ အီမာမ်ကြီးများလည်း မရှိတော့ပေ။ သို့သော်နဗီတမန်တော်မြတ်၏ ဟဒီးစ်များ၊ စွန္နဟ်များ

ရှိနေပေသည်။ ထို့အပြင် အီမာမ်ကြီးတို့၏ အိဂ့်ျသေဟာဒ်များ၊ အမြင်များရှိနေသည်။ အကယ်၍ တစ်ဘက်တွင် တမန်တော်မြတ် (صلى الله عليه وسلم)၏ ဟဒီးစ်တော် တစ်ပုဒ်ရှိမည်။ စွဲန္ဒဟ်တစ်ခု ရှိမည်။ တခြားတစ်ဘက်တွင် အီမာမ်တစ်ဦးဦး၏ အဆို၊ ဒါမှမဟုတ် အမြင်တစ်ခုရှိမည်ဆိုလျှင် ထိုအခါမျိုး၌ အီမာမ်၏ အဆိုကို စွန့်လွှတ်၍ နဗီတမန်တော်မြတ်၏ အဆိုကိုသာ ယူလိုက်ရပေမည်။ ဟဒီးစ်ကို လက်မခံသော အခြေအနေမျိုးတွင် ကုဖ်ရ် ဖြစ်နိုင်ပေသည်။ ဒါကြောင့်ပဲ အီမာမ်ကြီးအားလုံးတို့သည် ဟဒီးစ်တော် မတွေ့ရှိရသည့်အခါ အိဂ့်ျသေဟာဒ်လုပ်ခဲ့ကြသည်။ ထိုအီမာမ်ကြီးတို့က ဤသို့ အလေးအနက် တိုက်တွန်းခဲ့ကြပေသည်။ ငါတို့၏ အိဂ့်ျသေဟာဒ်နှင့် ဆန့်ကျင်၍ အကယ်၍ ဟဒီးစ်တော် တစ်ပုဒ်ပုဒ် တွေ့ရှိခဲ့ပါမူ ငါတို့၏ အိဂ့်ျသေဟာဒ်လုပ်မှုများကို စွန့်လွှတ်၍ ဟဒီးစ်တော်များကို ကျင့်သုံးမှတ်ယူကြကုန်။

## <u>မုဟဒ္ဒိစ်များသည် သတ်က်လီးဒ်လုပ်သူများလော</u>

أسماء الرجال ကျမ်းများကို လှန်ကြည့်သောအခါ မုဟဒ္ဒိးစ်များသည် မည်သူ့၏နောက်ကိုမှ သတ်က်လီးဒ်မလုပ်ကြသူများ ဖြစ်ကြောင်း သိရပေလိမ့်မည်။ အကြောင်းမှာ မုဟဒ္ဒိးစ်ဖြစ်ရန်အတွက် ပညာရပ်များစွာကို သိဖို့ လိုအပ်သည်။ အူစူလေ့ဖေက်ဟ်နှင့် ပတ်သက်၍ အားလုံး လက်ခံထားသော ဥပဒေသ တစ်ခုရှိပေသည်။ ယင်းမှာ “အာလင်မ်သည် မည်သူ၏ သတ်က်လီးဒ်ကိုမှ မလုပ်သူဖြစ်သည်။”

■ المستصفى في علم الأصول တွင် အီမာမ်ဂဇာလီက အမိန့်ရှိသည်။

التقليد ليس في شيء من العلم

"သတ်က်လီးဒ်သည် (အိလင်မ်)သိခြင်းနှင့် လားလားမျှ မပတ်သက်ပေ။"

■ အိဗ်နေ့ကိုင်ယင်မ်(رحمة الله عليه)က အေ့လာမုလ်မူဝက္ကိအီးန်ကျမ်းတွင် အမိန့်ရှိသည်။

ولاخلاف بين الناس أن التقليد ليس بعلم وأن المقلد لايطلق عليه اسم العالم

"လူတို့ကြား အကွဲအလွဲမရှိ အားလုံး တစ်ညီတစ်ညွတ်တည်း လက်ခံကြသည်မှာ သတ်က်လီးဒ်သည် အိလင်မ်မဟုတ်ပေ။ မုကလ္လီးဒ်ကို အာလင်မ်ဟု မခေါ်ပေ။"

သို့သော် အလွှာများကို တင်ပြသော طبقات ကျမ်းများကို ကြည့်သောအခါ မုဟဒ္ဒိးစ်များသည် သတ်က်လီးဒ်သမားများ ဖြစ်ကြောင်း သိရသည်။

طبقات အလွှာများကို သတ်မှတ်ကြသာ သူများသည် ကြီးကျယ်လှစွာသော မုဟဒ္ဒိးစ်များကိုပင် သတ်က်လီးဒ်၏ အချုပ်အနှောင်ထဲတွင် တုပ်နှောင်ရန် လက်မတွန့် လက်မနှေးခဲ့ကြပေ။ ဤသည် ကလောင်တံဖြင့် ပတ်ရမ်းခြင်းကြောင့် ဖြစ်ရသည်။ မဇ်ဟဗ် ဝင်တိုင်းသည် အီမာမ်ကြီးများနှင့် ကြီးကျယ်သော မုဟဒ္ဒိးစ်များကို ဤကြော့ကွင်းထဲတွင် ဖမ်းရန် ကြိုးစားခဲ့ကြပေသည်။ ဤသို့ လုပ်ခြင်းဖြင့် အဝါမ်လူထုကို ပျော်ရွှင်စေရန်၊ သို့မဟုတ် မိမိတို့၏ မဇ်ဟဗ်ကို ကူညီထောက်ပံ့ရန် ရည်ရွယ်ခဲ့ကြခြင်း ဖြစ်သည်။

အချို့အခါများတွင် ပတ်သက်ဆက်နွယ်မှု တစ်ခုကြောင့် အီမာမ်ကြီးများ၊ ကြီးကျယ်သော မုဟဒ္ဒိးစ်များကို သတ်က်လီးဒ်

အုပ်စုထဲတွင် ထည့်သွင်းလိုက်ကြပေသည်။ အမှန်တကယ်တွင် ထို ပုဂ္ဂိုလ်များသည် ယင်းသို့ မဟုတ်ပါ။ ဆက်နွယ်မှု ဆိုသည်မှာ တချို့ ကိစ္စရပ်များနှင့် ဖြစ်ပေသည်။ ထိုဆက်နွယ်မှုများတွင် မည်သည့် ရှုထောင့်မှာမှ သတ်ကလီးဒ်ကို မတွေ့ရပေ။

**၁။** ဆရာဘက်သို့ ဆက်နွယ်ခြင်း။

ဆိုလိုသည်မှာ မုဟဒ္ဒိဒ်တစ်ဦး၏ ဆရာသည် မဇ်ဟဗ်ဝင်တစ်ခုခုနှင့် ဆက်နွယ်မှု ဖြစ်ခဲ့မည်။

**၂။** သူနေသော အရပ်ဒေသတွင် မဇ်ဟဗ်ဝင် အုပ်စုတစ်စု များပေ လိမ့်မည်။ ထိုအခါ ယင်းဒေသကို အစွဲပြု၍ သူ့ကို ယင်းဒေသတွင် နေထိုင်သော မဇ်ဟဗ်ဝါဒီများဘက်သို့ ဆက်နွယ်ခြင်း ကျော်ကြား သွားပေသည်။

**၃။** တစ်ဦးတစ်ယောက်၏ استنباط မဆ်အလဟ်များကို ထုတ်နုတ် သော နည်းလမ်းမှာ အီမာမ်တစ်ပါးပါးနှင့် တူဆင်သောကြောင့် ၎င်း ကိုလည်း ထိုအီမာမ်ဘက်ကို ဆက်နွယ်လိုက်ကြပေသည်။ ပမာအား ဖြင့် ရှားဟ်ဝလီယုလ္လာဟ်မုဟဒ္ဒိဒ်ဒေဟ်ဝလီက حجة الله البالغة (ط:مصر (152:ص တွင် အမိန့်ရှိပေသည်။

كان صاحب الحديث قد ينسب إلى أحد المذاهب لكثرة موافقته له كالنسائي
والبيهقي ينسبان إلى الشافعي

“မုဟဒ္ဒိဒ်တစ်ဦးဦးကို အိဂ်ျသေဟားဒ်လုပ်ရာတွင် တူဆင်မှုများ သောကြောင့် ၎င်းကို မဇ်ဟဗ် တစ်ခုခုဘက်သို့ ဆက်နွယ်လိုက်ကြ ပေသည်။ ပမာအားဖြင့် အီမာမ်နစာအီ၊ အီမာမ်ဗိုင်ဟကီတို့ကို အီမာမ်ရှာဖီအီဘက်သို့ ဆက်နွယ်ကြပေသည်။ လူတို့က ထိုဟဒီးစ်

ပညာရှင်ကြီး ၂ ဦးကို ရှာဖီအီဟု ထင်ကြပေသည်။ အမှန်တွင် သူတို့သည် ရှာဖီအီသခင်၏ သတ်က်လီးဒ်လုပ်သူများမဟုတ်ပေ။"

ထိုနည်းတူပင် ရှိုင်ခ်အဗ်ဒွလ်ကာဒိရ်ဂျီလာနီကို သူ၏ ကိုက်ညီမှုများသောကြောင့် လူတို့က ဟမ်ဗလီမဇ်ဟဗ်ဝင်လို့ သတ်မှတ်လိုက်ကြပေသည်။ အမှန်တစ်ကယ်တော့ သူသည် သတ်က်လီးဒ်လုပ်သောပုဂ္ဂိုလ်မဟုတ်ပေ။ သူသည် မိမိ၏ကျမ်းဂန်များတွင် အများအားဖြင့် ဟဒီးစ်တော်များနှင့်သာ အထောက်အထားပေးလေ့ရှိသည်။ အီမာမ် အဟ်မဒ်အိဗ်နေ့ဟမ်ဗလ်၏ အဆိုကိုသာ အထောက်အထားအဖြစ်ယူလာလေ့မရှိပေ။ သတ်က်လီးဒ် သမားများမှာမူ သူတို့၏ အထောက်အထားသည် သူတို့၏ အီမာမ်၏ အဆိုပင် ဖြစ်သည်။ ပမာအား ဖြင့် مسلم الثبوت ကျမ်းတွင်လာရှိသည်။

أما المقلد فمستنده قول إمامه

"မုကလ္လိဒ်၏ အထောက်အထားသည် သူ့အီမာမ်၏ စကားပင်ဖြစ်ပေသည်။"

မော်လာနာအဗ်ဒွလ်ဟိုင်ယ်လခ်နဝီက 13,15 ص النافع الكبير တွင်ရေးသည်။

إنما انتسب إليه لسلوكه طريقته في الاجتهاد

"သဘောမှာ တစ်ခါတစ်ရံ မုဂ်ျသဟီးဒ်၏ အိဂ်ျသေဟားဒ်လုပ်သောနည်းလမ်းနှင့် ကိုက်ညီကြောင့် ထိုပုဂ္ဂိုလ်ကို ယင်းမုဂ်ျသဟီးဒ်ဘက်သို့ ဆက်နွယ်ခြင်း ခံလိုက်ရသည်လည်း ရှိသည်။"

**၄။** မုဟဒ္ဒိးစ်တစ်ဦးက စာအုပ်တစ်အုပ်ကို ရေးသည်။ ထိုစာအုပ်၏ အစိတ်အပိုင်းအများစုက အီမာမ်တစ်ပါးပါး၏ အိဂ်ျသေဟားဒ်နှင့်

ကိုက်ညီမည်ဆိုလျှင်လည်း ထိုမုဟာဒ္ဒိးစ်ကို ယင်းအီမာမ်ဘက်သို့ ဆက်နွယ်ခြင်း ပြုလိုက်ကြပေသည်။

**၅။** အစိုးရကို ကြောက်သောကြောင့် အစိုးရအားသန်သော မဇ်ဟဗ် ဘက်သို့ လူတို့ ဆက်နွယ်လိုက်ကြပေသည်။

**၆။** နောက်ပိုင်းလာကြသော သူများသည် အလွှာခွဲသော طبقات စာအုပ်များတွင် အရေအတွက်တိုးရန်အတွက် မုဟာဒ္ဒိးစ်များကို သတ်ကလီးဒ် အတန်းစားတွင် ဆွဲထည့်လိုက်ကြပေသည်။

**၇။** မဇ်ဟဗ်ရှင် အီမာမ်၏ ကျောင်းတွင် ပညာသင်ကြားယူခဲ့သည့် အတွက်ကြောင့် သူ့ကိုလည်း ထိုအီမာမ်၏ မဇ်ဟဗ်ဘက်သို့ ဆက် နွယ်လိုက်ကြသည်လည်း ရှိပေသည်။

၄င်းနောက်ဆုံးပုံစံတွင် ဥပမာပြရမည်ဆိုလျှင် မော်လာနာ စန္ဒာ အွလ္လာဟ်(رحمة الله عليه)သည် ဒါရွလ်အူလူမ်ဒေယိုဗန်မှ ပညာသင်ယူ ပြီးစီးခဲ့သည်။ ဒေယိုဗန်ကျောင်းတော်မှ အမှတ်စဉ် ထုတ်သောအခါ တွင် ထိုပုဂ္ဂိုလ်ကို ဒေယိုဗန်ဒီတို့၏ (ဆွဖ်)လိုင်းတွင် ထည့်သွင်း လိုက်ကြပေသည်။ အမှန်တကယ်တွင် သူသည် အဟ်လေ့ဟဒီးစ် လမ်းပေါ်ကို လျှောက်လှမ်းသော ပုဂ္ဂိုလ်၊ အဟ်လေ့ဟဒီးစ်ဘက်ကို ဖိတ်ခေါ်သော ပုဂ္ဂိုလ်ဖြစ်ပေသည်။ အချုပ်ကို ပြောရမည်ဆိုလျှင် မုဟာဒ္ဒိးစ်များသည် မည်သူ့၏ သတ်ကလီးဒ်ကိုမှ လုပ်ကြသည် မဟုတ်။ သို့သာမက ကိုယ်တိုင် မုဂ်ျသဟီးဒ်များဖြစ်ကြသည်။ အထက်ဖော်ပြပါ အကြောင်းကြောင်းတို့ကြောင့် ၎င်းတို့ကို မဇ်ဟဗ် တစ်ခုခုဘက်သို့ ဆက်နွယ်လိုက်ကြသည်သာ ဖြစ်သည်။ ပမာအား

ဖြင့် ကျော်ကြားသော ရှာဖိအီမဇ်ဟဗ်ဝင် အီမာမ် ကာဒ္ဒီအဗူဗကရ် ကဖ္ဖာလ်က အမိန့်ရှိသည်။

لسنا مقلدين للشافعي بل وافق رأينا رأيه

"ကျွန်ုပ်တို့သည် ရှာဖိအီနောက်လိုက် မုက္ကလီးဒ်များမဟုတ်ပေ။ သို့သာမက ကျွန်ုပ်တို့၏ အဆိုသည် သူ၏ အမြင်နှင့် ကိုက်ညီသွားခြင်းသာ ဖြစ်ပေသည်။"

## ကျွန်ုပ်တို့သည် အီမာမ်ဗုခါရီကို သတ်က်လီးဒ် လုပ်ကြသလား

သတ်က်လီးဒ်သမားများက ပြောကြတယ်။ သတ်က်လီးဒ်နဲ့ ဘယ်သူက ကင်းလို့လဲ။ ခင်ဗျားတို့ကလည်း အီမာမ်ဗုခါရီကို သတ်က်လီးဒ် လုပ်ကြတာပဲ မဟုတ်လားတဲ့။

အံ့ပါရဲ့မောင်ရ! ပြောစမ်းပါဦး။ ဘုရင်ကြီးရဲ့သံတမန်က ဘုရင်ကြီးရဲ့ အမိန့်တစ်ခုခုကို ဖတ်ကြားပြရင်၊ အဲဒီအမိန့်က ဘုရင်ရဲ့ အမိန့်ဖြစ်မလား။ သံတမန်ရဲ့ အမိန့်ဖြစ်မလား။ ခင်ဗျားတို့ သူ့ကို ဒီလိုပြောမလား။ သွားစမ်းပါကွာ။ ခင်ဗျားရဲ့ စကားကို ကျွန်တော်တို့ လက်မခံဘူး။ စဉ်းစဉ်းစားစားလုပ်ပါဦး။ မှျမှျတတလေးပြောဦး။

ကျွန်တော်တို့နဲ့ အီမာမ်အဗူဟနီဖာရဲ့ကြားမှာ နှစ်ရာစုပေါင်းများစွာ ခြားနားပါတယ်။ ဟေဒါယာကျမ်း၊ كنز الدقائق ကျမ်း၊ အာလမ်ဂီရီကျမ်း၊ ကုဒူရီကျမ်း၊ ဒုရ်ရေမုခ်သာရ်ကျမ်းရှင်တို့နဲ့ ကျွန်တော်တို့ ကြားမှာ နှစ်ပေါင်းရာပေါင်းများစွာ ကွာဟပါတယ်။ လူတွေက သူတို့ရဲ့ ဖသ်ဝါတွေအပေါ်မှာ ကျင့်သုံးကြတယ်။ ပြီးတော့ ကိုယ့်ကိုယ်

ကိုယ် ဟနဖီလို့ခေါ်ကြတယ်။ ဒါပေမဲ့ ဘယ်သူမှ ဒီလိုမပြောပါဘူး။ လူတွေက ဟေဒါယာ၊ ဒူရေမုခ်သာရ် စတဲ့ကျမ်းရှင်တွေရဲ့ သတ်က်လီးဒ်လုပ်ပါတယ်ဆိုပြီးတော့ ဘယ်သူမှ မပြောပါဘူး။ ကျောင်းသားကလည်း ဆရာရဲ့ထံပါးကနေ ကူးယူတဲ့အတွက်ကြောင့် ဆရာပြောသမျှကို သူလက်ခံတဲ့ အတွက်ကြောင့်မို့လို့၊ ဒါလည်း သတ်က်လီးဒ်ဖြစ်တယ်လို့ တစ်ဦးတစ်ယောက်က ပြောမယ်ဆိုရင်လည်း ဒါက သိပ်မှားယွင်းတဲ့ အမှားကြီး ဖြစ်ပါတယ်။

ပထမဦးစွာ ပြောချင်တာကတော့ သတ်က်လီးဒ်ဆိုတာ ဘယ်အချိန်ဖြစ်မလဲ။ ဆရာတီထွင်ကြံဆထားတဲ့ စကားတွေကို လက်ခံမှသာလျှင် သတ်က်လီးဒ်ဆိုတာ ဖြစ်မယ်။ ဆရာက မိမိရဲ့အိဂ်ျသေဟားဒ်နဲ့ စာသင်တာလား။ ဒါမှမဟုတ် ဆရာကိုယ်တိုင်က အထက်က စကားတွေကို ကူးယူတင်ပြ သင်ကြားနေတာလား။ အကယ်၍ ကူးယူဖော်ပြ သင်ကြားနေတာဆိုရင် သတ်က်လီးဒ် လုပ်တာမဟုတ်ဘူး။ အဲဒါကိုပဲ ခင်ဗျားက သတ်က်လီးဒ်လို့ ပြောမယ်ဆိုရင် အီမာမ်ဆပ်ရဲ့ အဆိုတွေကို ဘယ်သူပြောပြလို့ ခင်ဗျားက လက်ခံတာလဲ။ အကယ်၍ ဟေဒါယဟ်ကျမ်းရှင်၊ ဒူရေမုခ်သာရ် အစရှိတဲ့ ကျမ်းရှင်တို့ပြောလို့ ခင်ဗျားက လက်ခံတယ်ဆိုရင် ဂျာအေးသူ့အမေရိုက်၊ မုန့်လုံးစက္ကူကပ်နေလိမ့်မယ်။ ဒီလိုမုန့်လုံးစက္ကူကပ်တဲ့ အဖြစ်မျိုးက လက်ခံနိုင်စရာ မဟုတ်ပါဘူး။

ယခုမျှမျှတတလေးပြောပါ။ ဟေဒါယဟ်နဲ့ အစရှိသည့် ကျမ်းတွေ

မှာ ဘယ်သူ့စကားဖော်ပြထားတာလဲ။ တမန်တော်မြတ်( صلى الله عليه وسلم)ရဲ့ စကားတွေလား၊ ဒါမှမဟုတ် လူတို့ရဲ့ စကားတွေလား။ ကုရ်အာန်၊ ဟဒီးစ်တော်တွေကနေ ထုတ်နှုတ်ထားတဲ့ အရာတွေ ဖြစ်မယ်လို့တော့ လက်ခံပေးလိုက်လို့ရတယ်။ သို့သော် အလ္လာဟ်အရှင်မြတ်ရဲ့ ကျွန်အပါင်းတို့ ဒါက နဗီရဲ့ စကားတော် မဟုတ်ပါဘူး။ အဲဒီကျမ်းတွေမှာ ဖော်ပြထားတဲ့အရာတွေက ကုရ်အာန်နဲ့ ဟဒီးစ်တော်တွေမှ ကောက်နှုတ် ဖော်ပြထားတယ်ဆိုရင်လည်း အဲဒါက တမန်တော်မြတ် ပြောပြခဲ့တဲ့ စကား အတိအကျတော့ မဟုတ်ပါဘူး။ <u>ကတိုးနံ့သာဖြစ်ပါတယ်။ ကတိုးတော့မဟုတ်ပါဘူး။</u>

## <u>ဆင့်ပြန်ချက်ကိုလက်ခံခြင်းနဲ့ သတ်က်လီးဒ်</u>

ဟဒီးစ်ပညာရှင်များက ဟဒီးစ်များကို စုဆောင်းခဲ့ကြတယ်၊ ရေးသားခဲ့ကြတယ်။ ထိုဟဒီးစ်များကို နားထောင်တဲ့သူက ထိုဟဒီးစ်ပညာရှင်များကို သတ်က်လီးဒ်လုပ်သူ မဟုတ်ပါ။ ၎င်းကို သတ်က်လီးဒ်လုပ်သူလို့ ပြော၍မရပါ။ အကြောင်းမှာ ဟဒီးစ်တော်များသည် ယင်းဟဒီးစ်ပညာရှင်များ၏ အဆိုမဟုတ်ပါ။ သို့သာမက တမန်တော်မြတ်(صلى الله عليه وسلم)၏ ဟဒီးစ်တော်များ ဖြစ်ပါတယ်။ အဲဒီဟဒီးစ်တွေကို ဟဒီးစ်ပညာရှင်များက ဆင့်ပြန်ခဲ့ကြတာ။ ဟဒီးစ်ပညာရှင်များနဲ့ ဟဒီးစ်ဆင့်ပြန်သူတွေက ကြားခံမျှသာဖြစ်ပါတယ်။

ပမာအားဖြင့် ဖေကဟ်ကျမ်းပြုစုခဲ့တဲ့ ကျမ်းရှင်တွေ၊ နောက်တခြား စတဲ့ ဟနဖီပညာရှင်တွေက အီမာမ်အဗူဟနီဖာဟ်ရဲ့ အဆိုတွေကို ကူးယူဖော်ပြဖို့ရန်အတွက် ကြားခံတစ်ခုမျှသာ ဖြစ်ခဲ့သလိုပါပဲ။ ၎င်းတို့ထံကနေ ရယူတဲ့ သူတွေက ၎င်းတို့ကို သတ်ကလီးဒ်လုပ်တဲ့ သူလို့ မခေါ်နိုင်ပါ။ ဒါ့အပြင် ရေဝါယသ်ကို ဆင့်ပြန်သူရဲ့ ဆင့်ပြန်ချက်ကို လက်ခံတဲ့သူကို မုကလ္လီးဒ်လို့ ခေါ်မယ်ဆိုရင် အီမာမ်ကြီး ၄ ပါးစလုံးလည်း မုကလ္လီးဒ်ပါပဲ။ ၎င်းတို့ကလည်း ဟဒီးစ်တွေကို ဟဒီးစ်ဆင့်ပြန်သူတွေနဲ့ ဟဒီးစ်ပညာရှင်တွေဆီကနေပဲ တစ်ဆင့်ရယူခဲ့ပါတယ်။ ၎င်းတို့ကိုယ်တိုင်က တမန်တော်မြတ်( صلى الله عليه وسلم)ရဲ့ နှုတ်ကနေ ဟဒီးစ်ကို ကြားခဲ့တာမဟုတ်ပါ။ အမှန်တော့ ဒီ အီမာမ်ကြီး ၄ ပါးနောက်ကို သတ်ကလီးဒ်လုပ်ကြတဲ့ ပုဂ္ဂိုလ်တွေက ဒီအချက်ကို လက်မခံပါဘူး။ ဒါကြောင့် ဟဒီးစ်ပညာရှင်တွေ ဆင့်ပြန်ထားတဲ့ ဟဒီးစ်တော်တွေ ရယူခြင်းကို ထိုဟဒီးစ် ပညာရှင်များအား သတ်ကလီးဒ်လုပ်ခြင်းလို့ သတ်မှတ်၍မရပါ။

**<u>သတ်ကလီးဒ်၏ အမျိုးအစားခွဲစိတ်ခြင်း</u>**

သတ်ကလီးဒ်မှာ အမျိုးအစား ၄ မျိုးရှိသည်။

**၁။** ဝါဂျစ်ဗ် **၂။** မုဗဟ် **၃။** ဟရာမ် **၄။** ရှိရ်ကဲ

**ဝါဂျစ်ဗ်** ဆိုသည်မှာ မသိစဉ်အခါက မုဂျ်သဟီးဒ်တစ်ယောက်ရဲ့

အဆိုကို စည်းကမ်းချက်တစ်ခု သတ်မှတ်ပြီး သတ်က်လီးဒ်လုပ်တယ်။ ထိုမုဂ်ျသဟီးဒ်ရဲ့ အဆိုက ကုရ်အာန်ကျမ်းတော်မြတ်နဲ့ ဟဒီးစ်နဲ့ မဆန့်ကျင်နေသရွေ့ ကျွန်ုပ် ယင်းမုဂ်ျသဟီးဒ်နောက်ကို သတ်က်လီးဒ် လုပ်ပါတယ်ဆိုတဲ့ စည်းကမ်းချက်နဲ့ သတ်က်လီးဒ် လုပ်ခြင်း။ ဤသည် ဝါဂျစ်ဗ်ဖြစ်သည်။

**မုဗဟ်** သတ်က်လီးဒ်ဆိုသည်မှာ သီးသန့်မဇ်ဟဗ် တစ်ခုသတ်မှတ်၍ သတ်က်လီးဒ်လုပ်သည်။ ထိုသို့ သီးသန့်ပြုလုပ်ခြင်းကို ရှရီအသ်ရဲ့ အမိန့်ဟုလည်း မယူဆ၊ ထို့ပြင် အစွဲလည်း မထားပေ။ တခြား မဇ်ဟဗ်တွေရဲ့ မဆ်အလဟ်တွေကိုလည်း ရယူတတ်ပေသည်။ ကုရ်အာန်၊ ဟဒီးစ်ရဲ့ အပေါ်ယံ ပေါ်လွင်မှုတွေကိုလည်း မငြင်းပေ။ တခြားသူတွေကိုလည်း မကောင်း မယူဆပေ။ မဝေဖန်ပေ။ ထိုအရာသည် မုဗဟ် သတ်က်လီးဒ်ဖြစ်သည်။

**ဟရာမ်** သတ်က်လီးဒ်ဆိုသည်မှာ မုဂ်ျသဟီးဒ်တစ်ဦးတစ်ယောက်၏ အဆိုများကို ရှရီအသ်၏ အရေးကြီးသော အရာဟု မှတ်ယူခြင်း။ ထို့နောက် အလ္လာဟ်နှင့်အလ္လာ့ဟ်ရစူလ်က သတ်က်လီးဒ်လုပ်ခြင်းကို အရေးကြီးသည်ဟု သတ်မှတ်ခဲ့ကြောင်း ယုံကြည်ချက်ထားခြင်း၊ ကုရ်အာန်နဲ့ ဟဒီးစ်တော်ကနေ တိုက်ရိုက်အကျိုးခံစားမှု လုပ်ခြင်းမှာ ကျွန်ုပ်နှင့် မည်သို့မျှ မအပ်စပ်ပေဟု မှတ်ယူခြင်း၊ ဤသည် ဟရာမ် သတ်က်လီးဒ်ဖြစ်သည်။

**ရှိရ်က်** သတ်က်လီးဒ်ဆိုသည်မှာ လူတစ်ဦးတစ်ယောက်၏ သတ်က်လီးဒ်ကို အရေးကြီးသည်ဟု မှတ်ယူ၍၊ အစွန်းရောက်သွားခြင်း၊ အဘယ်မျှ အစွန်းရောက်သွားသနည်းဟူမူ ကုရ်အာန်၊ ဟဒီးစ်တော်လာနေရင်လည်း ထိုအီမာမ်၏ အဆိုကို စွန့်လွှတ်ဖို့ အဆင်သင့် မရှိတော့ခြင်း၊ သို့သာမက မလိုအပ်သော၊ ဝေးလံသော အဓိပ္ပာယ်များဖွင့်ဆို သအ်ဝီးလ်လုပ်၍ မိမိ အီမာမ်၏ အဆိုအတိုင်း ကိုက်ညီအောင်လုပ်ခြင်း၊ မိမိအီမာမ်၏ အဆိုကို ကုရ်အာန်၊ ဟဒီးစ်နဲ့ ကိုက်ညီအောင်...အီမာမ်က ဟလားလ်သတ်မှတ်သော အရာကို ၎င်းက ဟလားလ်ဟု သတ်မှတ်ပြီး အီမာမ်က ဟရာမ်သတ်မှတ်သော အရာကို ၎င်းကလည်း ဟရာမ်သတ်မှတ်ခြင်း၊ ဤသည် ရှိရ်က် သတ်က်လီးဒ် ဖြစ်သည်။

ဖော်ပြပါ သတ်က်လီးဒ်အမျိုးအစား ခွဲစိတ်ခြင်းသည် ဗိဒ်အသ် အမျိုးအစား ၂ မျိုးရှိသည်ဟု သတ်မှတ်သကဲ့သို့ပင် ဖြစ်ပေသည်။ ဗိဒ်အသ်ဟစနဟ်နှင့် ဗိဒ်အသ်စိုင်ယီအဟ်၊ ကောင်းသော ဗိဒ်အသ်နှင့် မကောင်းသော ဗိဒ်အသ်ဟူ၍ ခွဲခြားသတ်မှတ်သကဲ့သို့ပင် ဖြစ်ပေသည်။

တမန်တော်မြတ်(صلى الله عليه وسلم)က ဤသို့မိန့်ခဲ့ပေသည်။ ဗိဒ်အသ်တိုင်းသည် လမ်းမှားဖြစ်ပေသည်။ ထို့အတွက်ကြောင့် ဗိဒ်အသ်မှာ ကောင်းသော ဗိဒ်အသ်ဟူ၍ ဘယ်လိုလုပ် ရှိနိုင်မှာလဲ။

ပထမ အမျိုးအစား သတ်က်လီးဒ်နှင့် ပတ်သက်၍ ပြောရပါမူ ဒါဟာ ဘယ်လိုမှ သတ်က်လီးဒ် မမြောက်ပါဘူး။ ဘာကြောင့်လဲဆိုတော့ လူသာမာန်တစ်ယောက်က အာလင်မ်တစ်ယောက်ကို မေးမြန်းခြင်း သည် အကျိုးခံစားခြင်းသာ ဖြစ်ပါတယ်။ သတ်က်လီးဒ်ရဲ့ ထိုအမျိုး အစား ခွဲခြမ်းခြင်းကို ရှာဟ်ဝလီယုလ္လဟ်က မိမိ၏ကျမ်း "အိစ်က် ဒုလ်ဂျီးဒ်"မှာ ဖော်ပြထားပါတယ်။ အဲဒါကို နောက်ပိုင်း လူတွေက တဆင့်ပြီးတဆင့် ကူးယူဖော်ပြပြီး နောက်ပိုင်း ပညာရှင်တော်တော် များက မိမိတို့ရဲ့ စာအုပ်မှာ သတ်က်လီးဒ်ကို ၄ မျိုးခွဲခြားခြင်းဆိုတဲ့ ကိစ္စကို နေရာပေးလာကြပါတယ်။ တကယ်တော့ သတ်က်လီးဒ်ရဲ့ ဘယ်အမျိုးအစားမှ မပိုင်ပါဘူး။

## (ဂျရဟ်)လုပ်ဝေဖန်ခြင်းကိုလက်ခံနိုင်ဖို့ရန်အတွက်ခေတ်ပြိုင်ဖြစ်ဖို့ အရေးကြီးခြင်း

● ခင်ဗျားတို့က ပြောတယ်။ ဂျရဟ်ကို လက်ခံနိုင်ဖို့ရန်အတွက် ခေတ်ပြိုင်ဖြစ်ရမယ်တဲ့။ (ဒီလိုပြောကြားခြင်းအားဖြင့် သူတို့ ဘာ ရည်ရွယ်ချင်သလဲဆိုတော့ အီမာမ်အဗူဟနီဖာဟ်အပေါ်မှာ နောက် ပိုင်းလာတဲ့ ပညာရှင်တွေက ဂျရဟ်လုပ်ခဲ့ကြတယ်။ ဒါကြောင့် သူတို့ ရဲ့ ဂျရဟ်လုပ်ခြင်းက ဘောင်မဝင်ဘူးလို့ ပြောဆိုချင်ကြတာဖြစ် တယ်။)

● ဒီစကားက ဟဒီးစ်ပညာရပ်များကို လက်ခံထားတဲ့သူများအဖို့ သုတေသန အသစ်တစ်ခုပဲ။ ထိုဥပဒေကို ဟဒီးစ်ရဲ့ ဥပဒေတွေထဲက ဘယ်ကျမ်းထဲမှာ ဖော်ပြထားသလဲဆိုတာ အနည်းငယ် တင်ပြပေးနိုင်မလား။

● ဒီအဆိုကိုသာ လက်ခံကြေးဆိုရင် ဟဒီးစ်ပညာရပ် ကျွမ်းကျင်သော သူတွေက မိမိခေတ်အခါမှာ ရှိကြသော ဟဒီးစ်ဆင့်ပြန်သူတို့ကိုသာလျှင် ဂျရဟ်လုပ်နိုင်မယ်။ မိမိတို့ ခေတ်မတိုင်ခင်က ဟဒီးစ်ဆင့်ပြန်သူများကို ဂျရဟ်လုပ်ခွင့် မရှိတော့ပါဟု ပြောရပါလိမ့်မည်။ အကယ်၍ ၎င်းတို့က ဂျရဟ်လုပ်ခဲ့ပါလျှင် ဘောင်မဝင်ဘူးဟု ပြောရပါလိမ့်မည်။ အမှန်သော်ကား ယဟ်ယာအိဗ်နေ့မအီးန်၊ အိဗ်နေ့အိုယိုင်နာ၊ အိဗ်နေ့မိုဗာရက်၊ စအီးဒ်အိဗ်နေ့ကသ္တားန်၊ အဗ်ဒွလ်ရဟ်မာန် အိဗ်နေ့မဟ်ဒီ၊ အီမာမ်အဟ်မဒ်ဗင်န်ဟမ်ဗလ်၊ အီမာမ်ဗုခါရီ၊ အီမာမ်အဗူဇုရ်အာရာဇီ၊ အီမာမ်အဗူဟာသင်မ်၊ အိဗ်နေ့ဟိဗ္ဗာန်း၊ အီမာမ်မွတ်စ်လင်မ်၊ အီမာမ်နစာအီ၊ အီမာမ်သေရ်မီဇီ၊ အီမာမ်ဟာကင်မ်၊ အီမာမ်ဒါရုကွသ္ဓနီ၊ အီမာမ် အိဗ်နေ့သိုင်မီယဟ်အစရှိတဲ့ ဟဒီးစ်ပညာရှင်များက မိမိတို့ ခေတ်မတိုင်ခင်က ဟဒီးစ်ဆင့်ပြန်သူများကို ဂျရဟ်လုပ်ခဲ့ကြသည်။ ခင်ဗျားတို့ စကားအရဆိုရင် ထိုပုဂ္ဂိုလ်များ၏ ဂျရဟ်လုပ်ခြင်းများကို ပစ်ပယ်ရတော့မှာလား။ ပညာရေးလောကတွင် ဒီဥပဒေပြုချက်က ပျက်စီးဖွယ်ပင်ဖြစ်ပေသည်။ ထို့အပြင် ဟဒီးစ်ကျမ်းဂန်များကို အစအဆုံးပြန်လည်

စီစစ်ရန်လိုအပ်ပေတော့မည်။

● အထက်ဖော်ပြပါစကားက ခင်ဗျားရဲ့ စကားဟာ ခင်ဗျားရဲ့ ပညာရေး၊ အထူးသဖြင့် ဟဒီးစ်ပညာရပ်မှာ ခင်ဗျားက အင်မတန် အားနည်းကြောင်း ထင်ရှားသော အထောက်အထား ဖြစ်သည်။ ဘာဖြစ်လို့လဲဆိုတော့ ဟဒီးစ်ပညာရပ်ကို ကျွမ်းကျင်သော ဟဒီးစ်ပါရဂူကြီးများထံတွင် ခေတ်ပြိုင်ဖြစ်ခြင်းသည် ဂျရဟ်ကို လက်ခံနိုင်ဖို့ စည်းကမ်းချက်မဟုတ်ပေ။ ခေတ်ပြိုင်ဖြစ်လို့ဆိုတဲ့ ပုဒ်မကြောင့် ဂျရဟ်တွေကို လက်မခံတာမျိုးတွေသာ ရှိခဲ့ကြပါတယ်။ ဘာဖြစ်လို့လဲဆိုတော့ إن المعاصرة أصل المنافرة ခေတ်ပြိုင်ဖြစ်ခြင်းသည် အချင်းချင်းအမုန်းပွားခြင်း၊ အချင်းချင်းမတည့်ခြင်းရဲ့ အခြေခံဖြစ်တယ်။ ဒါကြောင့် ခေတ်ပြိုင်လူနှစ်ယောက်က ဂျရဟ်လုပ်မယ်ဆိုရင် သူတို့ခေတ်ပြိုင်ဘဝမှာ ရှိခဲ့ကြတဲ့ အထင်လွဲမှားမှုတွေကို အခြေခံပြီး၊ ဂျရဟ်လုပ်တာ ဖြစ်နိုင်တယ်။ ဒါကြောင့်မို့လို့ ဂျရဟ်လုပ်ခဲ့တာလည်း ဖြစ်နိုင်တယ်။ ဒါကြောင့်မို့လို့ အဲဒီဂျရဟ်ကို လက်ခံတာနဲ့ပတ်သက်ပြီးတော့ စည်းကမ်းချက်လည်း သတ်မှတ်ထားပါတယ်။ ပမာအားဖြင့် အကျယ်တဝန်း ဂျရဟ်လုပ်သော အခါမှသာလျှင် ဘောင်ဝင်ပေလိမ့်မည် ဟူသော စည်းကမ်းချက်မျိုး။ (အထူးသဖြင့် တချို့ပညာရှင်များက အကောင်း မှတ်ချက်ပြုထားသော သူနှင့်ပတ်သက်လာရင် ဂျရဟ်လုပ်ပါက အကျယ်တဝန်းရှင်းလင်းတင်ပြ ဂျရဟ်လုပ်မှသာ ဘောင်ဝင်ပေလိမ့်မည်။ အကျယ်တဝန်း လုပ်ထား

သော "ဂျရဟ်မုဖစ္စရ်"ဝေဖန်ချက်သည် သအ်ဒီးလ်လုပ်ထားသော မှတ်ချက်ကောင်းထက် ပို၍ ဦးစားပေးဖြစ်ပါတယ်။)

- တစ်နည်းဆိုရပါမူ အကျယ်တဝန်းဂျရဟ်သည် သအ်ဒီလ်ထက် ဦးစားပေးခြင်းခံရပေသည်။ ခင်ဗျားရဲ့ဖော်ပြပါ အထောက်အထားမဲ့၊ အခြေအမြစ်မရှိသော၊ အတွေးအခေါ်နှင့် ဆန့်ကျင်သော စကားကို လက်ခံပေးလိုက်မည်ပဲ ထားဦး။ ထိုအခါတွင်လည်း ခင်ဗျားရဲ့ ရည်ရွယ်ချက် အောင်မြင်မှာ မဟုတ်ပါဘူး။ အကြောင်းမှာ အီမာမ်အဗူဟနီဖာကို ဟဒီးစ်ဆင့်ပြန်ရာတွင် ဂျရဟ်လုပ်ထားသော ပညာရှင်ကြီးများထဲတွင် သူနှင့်ခေတ်ပြိုင် ပညာရှင်များလည်း ပါဝင်ခဲ့ပါသည်။ ပမာအားဖြင့် အီမာမ်ဆုဖ်ယာန်ဆောင်ရီ(رحمة الله عليه)၊ အီမာမ်အဗ်ဒွလ္လာဟ်အိဗ်နေ့မိုဘာရက်(رحمة الله عليه)၊ အစရှိသဖြင့်ပေါ့။

အချုပ်အားဖြင့် တင်ပြရမယ်ဆိုလျှင် ခင်ဗျားရဲ့ စကားက အလေးချိန်မရှိပါ။ ထိုစကားနဲ့ခင်ဗျားရဲ့ ရည်ရွယ်ချက်လည်း မပြည့်ဝနိုင်ပါ။

## တစ်ဦးတည်းကိုသတ်မှတ်၍နောက်လိုက်မှုပြုခြင်းနှင့် စဉ်းစားတွေးခေါ် မှုလမ်းစဉ်

တချို့လူတွေက ပြောကြတယ်။ "ကျွန်ုပ်တို့သည် တစ်ဦးတည်းကို သတ်မှတ်၍ သတ်က်လီးဒ်လုပ်တာကို လက်ခံကြသည်မဟုတ်။

ကျွန်ုပ်တို့က အတွေးအခေါ် လမ်းစဉ်တစ်ခုကိုသာ လက်ခံခြင်း ဖြစ်ပါတယ်။"

ဒီစကားသည် မှားယွင်းပါသည်။ မှားယွင်းသော၊ ချည့်နဲ့သော ရပ်တည်ချက်ကို ရွေးချယ်ခြင်းကြောင့် ဤရလဒ် ထွက်လာပေသည်။ လူသားသည် စကားတစ်ခွန်းအပေါ်တွင် တည်မြဲစွာ မရပ်တည်နိုင်တော့ပေ။ အနည်းငယ်ရှင်းလင်းပြပါဦး။ ကျွန်ုပ်တို့သည် သတ်က်လီးဒ်ရှခ်ဆွီး (ခေါ်) တစ်ဦးတည်းနောက်ကို လိုက်ခြင်းကို လက်မခံဘူးဆိုတဲ့ ဝါကျတွင် ကျွန်ုပ်တို့ဆိုသည်မှာ မည်သူများနည်း။ ဟနဖီပညာရှင်များအားလုံး၊ အဝါမ်လူထုအားလုံး၊ သို့မဟုတ် အသင်နှင့်အသင်၏ နောက်လိုက်သူများကို ဆိုလိုသလော။ ဤမေးခွန်းကိုကျွန်ုပ်တို့ အဘယ်ကြောင့် မေးရသနည်းဟူမူ ယနေ့ခေတ်ကာလအထိ အသင်တို့၏ ပညာရှင်အကြီးအကဲများက ဟစ်ကြွေးခဲ့ကြသည်မှာ (သတ်က်လီးဒ်ရှခ်ဆွီး) တစ်ဦးတည်းနောက်ကို လိုက်ခြင်းသည် အရေးကြီးသည်တဲ့။ ထို့ပြင် သတ်က်လီးဒ်ရှခ်ဆွီးကိုအတည်ပြုရန် အထောက်အထားများကို မရရအောင် ဆွဲယူ၍ ဆွဟာဗဟ် သာဝကကြီးများနှင့်ပင် အထောက်အထား ပြကြပေသည်။ (သတ်က်လီးဒ်ကို အထောက်အထေားဖြင့် အတည်ပြုရာတွင် ဟနဖီပညာရှင်ကြီးများ၏ စာပေများကို ကြည့်ရှုနိုင်ပေသည်။) ထို့ပြင်ခင်ဗျားတို့၏ ပညာရှင်များသည် သတ်က်လီးဒ်ရှခ်ဆွီးကို အရေးကြီးသည်။ ၎င်းအပြင် (အိဂ်ျမာအ်) အားလုံးတစ်ညီတစ်ညွတ်တည်း

လက်ခံထားသော အရာဖြစ်သည်ဟု အတည်ပြုရန်အတွက် မိုး အဆုံးမြေအဆုံး ကြိုးစားကြပေသည်။ အမှန်မှာ ခင်ဗျားရဲ့ဖော်ပြပါ စကားသည် ထိုပညာရှင်ကြီးများ၏ ကြိုးစားမှုအားလုံးကို ကျူပင် ခုတ်ကျူငုတ်ပါမကျန်အောင် ဖြတ်တောက်ပစ်လိုက်ရာ ကျပေ သည်။ ဘယ်လိုပဲဖြစ်စေ ကျွန်ုပ်တို့ ပျော်ရွှင်ရသည်မှာ ခင်ဗျားသည် တစ်နည်းမဟုတ် တစ်နည်း ကျွန်တော်တို့နှင့် သဘောထား ကိုက်ညီ သွားပြီ။ ယင်းသဘောထားမှာ သတ်ကက်လီးဒ်ရှုခ်ဆွီးခေါ် တစ်ဦး တည်းနောက်ကို လိုက်ခြင်းသည် ဝါဂျစ်ဗ်မဟုတ်ဟူသော အချက် ဖြစ်ပေသည်။ ထပ်၍တောင်းဆိုသည်မှာ ဤအတွေးအခေါ်ကို ဖြန့်ချီ ရန်၊ ကျယ်ပြန့်စေရန် ဦးစွာပထမ မိမိအသိုင်းအဝန်းများကြားတွင် ပြုလုပ်ပါ။ ယင်းအသိုင်းအဝန်းများတွင် အဝါမ်လူထုရော၊ အထူး ပုဂ္ဂိုလ်တွေပါ သတ်ကက်လီးဒ်ရှုခ်ဆွီးကို ဝါဂျစ်ဗ်ဟု ပြောနေကြ ပေသည်။

● ဒုတိယတစ်ချက် ခင်ဗျားကို မေးမြန်းလိုသည်မှာ ကျွန်ုပ်တို့သည် အတွေးအခေါ်လမ်းစဉ်တစ်ခုကို နောက်လိုက်ခြင်း ပြုနေသည်ဟု ခင်ဗျားတို့ပြော ကြားခဲ့ပေသည်။ ယင်းဝါကျတွင် အတွေးအခေါ် လမ်းစဉ်တစ်ခုဆိုတာ အဘယ်အရာကို ဆိုလိုသနည်း။ အကယ်၍ ယင်း၏ဆိုလိုချက်မှာ ဟနဖီလမ်းစဉ်တွင် အီမာမ်အဗူဟနီဖာဟ်၏ အဆိုများအပေါ်တွင် ဖသ်ဝါပေး၍ ဆွာဟေဗိုင်န် အီမာမ် အဗူယူစွဖ် နှင့် အီမာမ်မိုဟမ္မဒ်၊ တခြားသော ဖိုကဟာပညာရှင်များ၏ အဆို

များကိုလည်း ဖသ်ဝါအဖြစ်လက်ခံ အတည်ပြုသည်။ ပြီးနောက် များစွာသော အဆိုများတွင် ခင်ဗျားတို့သည် အီမာမ် အဗူဟနီဖာဟ်၏ အဆိုကိုပင် စွန့်လွှတ်၍ အခြားသူများ၏ အဆိုကို လက်ခံကြသောကြောင့် စောဒကများနှင့် ရင်ဆိုင်ရနိုင်ဖွယ်ရှိရာ ယင်းစောဒကို ရှောင်ကြဉ်ရန်အတွက် ဤသို့ ပြောကြားခြင်းဖြစ်ပါမူ ထိုအခါတွင်လည်း ကိစ္စမရှိပေ။ အကြောင်းမှာ ဤအတွေးအခေါ်အုပ်စု ဆိုသော အရာသည်လည်း အလ္လာဟ်အရှင်မြတ် ကိုယ်တော်တိုင်က မိန့်တော်မူထားသော၊ နောက်လိုက်မှုပြုရန်အရေးကြီးသော၊ အမိန့်နာခံရန် အရေးကြီးသော အရာမဟုတ်ပေ။ ဤသည် ပုဂ္ဂိုလ်တစ်ဦးတည်းကို မဟုတ်တော့ဘဲ လူပုဂ္ဂိုလ်တစ်ဦးတည်းဘက်ကို ဆက်နွယ်ထားသော လမ်းစဉ်တစ်ခုကို သတ်က်လီးဒ် လုပ်ခြင်းသာ ဖြစ်ပေသည်။ ထိုသို့ သတ်က်လီးဒ်လုပ်ခြင်း၏ ရလဒ်မှာလည်း မိမိလမ်းစဉ်နှင့် ဆန့်ကျင်ဘက် အကယ်၍ ကုရ်အာန်ကျမ်းတော်မြတ်၏ မိန့်ကြားချက်တစ်ခုခု၊ ကိုယ်တော်မြတ်(صلى الله عليه وسلم)၏ မှန်ကန်ခိုင်လုံသော ဟဒီးစ်တစ်ခုခု၊ ဆွဟာဗဟ်သာဝကကြီးများနှင့် အခြားစတဲ့ အီမာမ်ကြီးများ၏ အဆိုများရှိခဲ့ပါမူ ယင်းအဆိုများအားလုံးကို စွန့်လွှတ် ပယ်ပစ်လိုက်ကြသည်သာ ဖြစ်ပေသည်။ မိမိ လမ်းစဉ်၊ သို့မဟုတ် မိမိတို့ အတွေးအခေါ်၊ အုပ်စု၏ စကားကိုသာ လက်ခံကြပေသည်။

အကယ်၍ အတွေးအခေါ်အုပ်စုဟု ပြော၍ အဟ်လေ့ရိုင်အ်တို့၏

အုပ်စုကို ဆိုလိုသည်ဖြစ်ပါမူ ယင်းအတွေးအခေါ်အုပ်စုမှာ အေ့ဟ်လေ့ဟဒီးစ် (ဟေဂျာဇ်နယ်သားတို့နှင့် ယှဉ်လျက်ရှိသော အီရတ်နိုင်ငံက အိုလမာပညာရှင်များကို ဆိုလိုပါမူ) ထိုအခါတွင်လည်း အထက်ဖော်ပြပါ စကားများကိုပင် ပြန်လည်၍ ပြောဆိုရပေမည် ဖြစ်ပေသည်။ ရှဟ်ဝလီယုလ္လာဟ်၏ ဟုဂ်ျဂျသွလ္လာဟိလ်ဗာလေဂါကျမ်းနှင့်မှာတမ်းချက်များကို ကြည့်ပါ။ သူသည် အတွေးအခေါ်အုပ်စုများကို ထုချေထား၍ အဟ်လေ့ဟဒီးစ်၊ ဟဒီးစ်ချစ်သူများ၏ လမ်းစဉ်ကို ထောက်ခံ၍ ဤသို့ မှာတမ်းမှုပြုခဲ့သည်။ အဟ်လေ့ဟဒီးစ် ဟဒီးစ်ချစ်သူများ၏ လမ်းစဉ်ကို လက်ခံလိုက်နာကြကုန်။

အချုပ်အားဖြင့် ပြောရလျှင် သတ်က်လီးဒ်ရှခ်ဆွီးနှင့် အတွေးအခေါ် အုပ်စုဟူ၍ ခွဲခြားခြင်းမှာ စကားလုံးတို့ဖြင့် အဓိပ္ပာယ်မဲ့ဆော့ကစားခြင်းသာ ဖြစ်ပေသည်။ ထိုသို့ ခွဲခြားလိုက်ခြင်းဖြင့်လည်း အပြုအမူများတွင် မည်သို့မျှ ကွာခြားသွားသည် မဟုတ်ပေ။ အတွေးအခေါ်အုပ်စုကို လက်ခံသည်ဟု ပြော၍လည်း ကုရ်အာန်ကျမ်းတော်မြတ်နှင့် စွန္နဟ်၏ နောက်လိုက်မဖြစ်နိုင်ကြပေ။

**<u>ဟဒီးစ်ပညာရှင်များ၏ဟဒီးစ်တစ်ပုဒ်ကိုဆွဟီးဟ်၊ဒွအီးဖ်သတ်မှတ်ခြင်းအပေါ်လက်ခံနာယူခြင်းသည်သတ်က်လီးဒ်မဟုတ်</u>**

ခင်ဗျား၏ စောဒက တစ်ခုရှိပေသည်။ ယင်းစောဒကမှာ “ကျွန်ုပ်

တို့သည် စနန်ကွင်းဆက်များကို စမ်းစစ်လေ့လာမှု မပြုဘဲ လက်ခံ နာယူကြပေသည်။ ထိုအခါ ကျွန်ုပ်တို့သည်လည်း မုကလ္လီးဒ်များသာ ဖြစ်ကုန်ကြပေသည်။"

ဤစာဒကကို လူတို့ ဤကဲ့သို့ ကျော့၍ကျော့၍ ပြောကြပေသည်။ "ဟဒီးစ်များကို ဆွဟီးဟ်၊ ဒွအီးဖ် သတ်မှတ်ရာတွင် လက်ခံနိုင်သော ဟဒီးစ်နှင့် ပယ်ချရမည်ဟူသော ဟဒီးစ်ဟု သတ်မှတ်ရာတွင် ထို အမိန့်ကို ဟဒီးစ်ပညာရှင်များက သတ်မှတ်ကြပေသည်။ လူသာမန် များ၊ သို့မဟုတ် အာလင်မ်တိုင်း ဂျာဟိလ်တိုင်းက ဤကဲ့သို့ အမိန့် မသတ်မှတ်နိုင်ကြပေ။ ဤသို့ သတ်မှတ်ရန်လည်း အရည်အချင်း မရှိကြပေ။ ဒါကြောင့် ဤကိစ္စတွင်လည်း လူအားလုံးသည် ဟဒီးစ် ပညာရှင်များ၏ ဆုံးဖြတ်ချက်ကို လက်ခံကြပေသည်။ တစ်နည်း အားဖြင့်ဆိုရာပါမူ သတ်ကလီးဒ်ကို လက်မခံကြသည့်သူများပင် လျှင် ဤနေရာတွင် ကိုယ်တိုင် သတ်ကလီးဒ် လုပ်ကြသည်။ သို့မ ဟုတ် သတ်ကလီးဒ်လုပ်ရန် မဖြစ်မနေ အခြေအနေသို့ ရောက်သွား ပေသည်။"

အချို့သူများက ထပ်တိုး၍ ပြောကြားသည်မှာ ခင်ဗျားတို့ ပြောကြပါ ဦး။ အလ္လာဟ်အရှင်မြတ်နှင့် အလ္လာဟ့်တမန်တော်က ဘယ်ဟဒီးစ် များကို ဆွဟီးဟ်၊ ဘယ်ဆင့်ပြန်ချက်များကို ဒွအီးဖ်ဟု မိန့်ကြား တော်မူခဲ့ပါသလဲ။ အကြောင်းမှာ အကယ်၍ အလ္လာဟ်အရှင်မြတ်နှင့် အလ္လာဟ့်ရစူလ်အပြင် တခြားသူများ၏ ဆွဟီးဟ်၊ ဒွအီးဖ် သတ်မှတ်

ခြင်းကို လက်ခံနာယူပါက ဤသည်လည်း သတ်ကက်လီးဒ် ဖြစ်သွား ပါလိမ့်မည်။ အမှန်မှာ ခင်ဗျားတို့က သတ်ကက်လီးဒ်ကို ဆန့်ကျင်သူ များဖြစ်ပေသည်။

တစ်ဦးတစ်ယောက်က ဤစောဒကကိုပင် ဤကဲ့သို့ တင်ပြပေသည်။

"ဂျူဟိုလ်တိုင်း သာမန်အဝါမ် လူတိုင်းသည်လည်း ဟဒီးစ်များတွင် ဆွဟီးဟ်နှင့် ဒွအီးဖ်ကို မည်သူက သိနိုင်ပါသလဲ။ အကယ်၍ မသိ နိုင်ဘူးဟု အဖြေထွက်မည်ဆိုလျှင် ၎င်းတို့သည်လည်း သတ်ကက် လီးဒ်သာ လုပ်နေကြရပေသည်။"

အချုပ်ဆိုရပါမူ ဤစောဒကကို စကားလုံးအမျိုးမျိုး၊ ပုံစံအမျိုးမျိုး ပြောင်းလဲ၍ စောဒကတက်ကြပေသည်။

အမှန်တကယ်မှာတော့ ဤစောဒကသည်လည်း မှားပေသည်။ စောဒကတက်သူများသည် သူတို့ ဘာကိုပြောကြနေသလဲဆိုတာကို သူတို့ကိုယ်တိုင်က မသိကြဘူးဟု ပြောမည်ဆိုလျှင်လည်း မှားမည် မဟုတ်ပေ။ ဤပုဂ္ဂိုလ်များသည် သတ်ကက်လီးဒ်တော့ လုပ်ကြသည်။ သို့သော် သတ်ကက်လီးဒ်၏ အဓိပ္ပာယ်ဆိုလိုရင်းကိုတော့ နားမလည် ကြပေ။ သတ်ကက်လီးဒ်လုပ်ခြင်းနှင့် သတ်ကက်လီးဒ် ပိုင်ကြောင်း ရှင်း ပြရန်အတွက် ဤပုဂ္ဂိုလ်တို့က ဘာပြောကြသလဲဆိုတော့ ကျွန်ုပ်တို့ သည် ဂျာဟိလ်များ ဖြစ်ကြသည်။ ကုရ်အာန်နဲ့ဟဒီးစ်ကို နားမလည် နိုင်ကြပေ။ ဒါကြောင့် သတ်ကက်လီးဒ်လုပ်ကြပါသည်။ သို့သော် သတ်ကက်လီးဒ်၏ ရှရီအသ် အဆင့်အတန်းသည် မည်ကဲ့သို့ ရှိသည်ကို

အတည်ပြုရန် ကိစ္စဖြစ်လာလျှင် အလ္လာမာဟ်ကြီးများ ပညာရှင်ကြီးများ ဖြစ်သွား၍ အမျိုးမျိုးသော ပညာရေးရှုထောင့်များကို တင်ပြလာကြပေတော့သည်။ ကြည့်ကြကုန်၊ ဤသို့ဤသို့ သတ်ကလီးဒ်သည် အတည်ဖြစ်ပေသည်၊ မည်သူမည်ဝါကြောင့် အတည်ဖြစ်ပေသည် စသဖြင့် သတ်ကလီးဒ်ကို အတည်ပြုရာတွင် ပညာရှင်ကြီးများ ဖြစ်သွားပေတော့သည်။ ဆိုလိုသည်မှာ သတ်ကလီးဒ်ကို အတည်ပြုရန်အတွက် ၎င်းတို့သည် ကုရ်အာန်၊ ဟဒီးစ်နှင့် အတွေးအခေါ်ပညာများကို နားလည်လာကြပေတော့သည်။

ယခုပြောပြထားတဲ့ စာေဒကရဲ့အဖြေကို ကြည့်ကြပါ။

## <u>သာသနာတော်တွင် နဗီမှလွဲ၍ အခြားသူ၏ အမြင်ကိုလက်ခံခြင်း</u>

ဟဒီးစ်များကို ဆင့်ပြန်သော ဟဒီးစ်ပညာရှင်များ၊ ၎င်းနောက် ဟဒီးစ်များကို ဆွဟီးဟ်၊ ဒွအီးဖ်ဟု အမိန့်ချမှတ်သူများသည် ဆင့်ပြန်ခြင်းဆိုင်ရာ ဥပဒေများအောက်တွင် ၎င်းတို့၏ လေ့လာဆန်းစစ်သုတေသနပြုချက်များကို သတင်းပေးခြင်းမျှသာ ဖြစ်သည်။ ၎င်းတို့၏ အိဂ်ျသေဟားဒ်ဆိုင်ရာ အမြင်မဟုတ်ပေ။

အမြင်နှင့် ဆင့်ပြန်မှုများကြားတွင်၊ သို့မဟုတ် အိဂ်ျသေဟားဒ်နှင့် သတင်းပေးမှုကြားတွင် ကွာခြားချက်ကို ဖော်ပြရန်ပင်မလိုပေ။ တစ်နည်းအားဖြင့် လူတစ်ဦးက စကားတစ်ခွန်း ပြောမည်။ ကျွန်ုပ်

အထင်က ဒီလိုရှိတယ်။ နောက်တစ်ဦးက ဤသို့ပြောမည်။ ကျွန်ုပ် ဤသို့ ကြားခဲ့ရသည်၊ သို့မဟုတ် ဤသို့ မြင်ခဲ့ရသည်။ သို့ဆိုလျှင် ကျွန်ုပ်အထင် ဤသို့ရှိသည်ဟူသော ဝါကျသည် အမြင်ဖြစ်၍ ကျွန်ုပ် ကြားခဲ့သည်၊ သို့မဟုတ် ကျွန်ုပ်မြင်ခဲ့သည်ဟု ဆိုသော ဝါကျတွင် သတင်းပေးခြင်းသာ ဖြစ်ပေသည်။ ဝါကျနှစ်ခုသည် တစ်ပုံစံတည်း မဟုတ်ပေ။ ထို့ကြောင့် ရှရီအသ်တွင် နဗီမှလွဲ၍ ပုဂ္ဂိုလ်တစ်ဦး တစ်ယောက်၏ အမြင်နှင့် သူ၏ အိဂ်ျသေဟားဒ်ကို လက်ခံခြင်းမှာ မွတ်စ်လင်မ်ထုအပေါ်တွင် ဝါဂျစ်ဗ်မဟုတ်ပေ။ ဆိုလိုသည်မှာ သတ်က်လီးဒ်လုပ်ရန် အမိန့်မပေးထားပေ။ သို့သော် ရှရီအသ်တရား တော်က မှန်ကန်တိကျခိုင်လုံ၍ ယုံကြည်နိုင်သော ပုဂ္ဂိုလ်တို့၏ သက်သေထွက်ဆိုမှုနှင့် သတင်းပေးခြင်းတို့ကိုမူကား လက်ခံရန် အမိန့်ပေးတော်မူထားပေသည်။ ပမာအားဖြင့် အလ္လာဟ်အရှင်မြတ် မိန့်တော်မူသည်။

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوٓاْ إِن جَآءَكُمۡ فَاسِقُۢ بِنَبَإٖ فَتَبَيَّنُوٓ

စူရဟ်၄၉၊ စူရဟ်ဟူဂျူရာသ်၊ အာယသ်တော် ၆၊ "အို အီမာမ်ရှင်တို့ အကယ်၍ မသူတော်တစ်ဦးဦးက သတင်းတစ်ခုခု ယူဆောင်လာ ည်ဆိုလျှင် ထိုသတင်းကို ဆန်းစစ်ကြကုန်။"

ထိုအမိန့်သြဝါဒနှင့် ဆန့်ကျင်ဘက် သဘောကောက်ယူမည်ဆိုလျှင် အကယ်၍ ယုံကြည်စိတ်ချရသော သက်ဝါရှင်တစ်ဦးဦးက သတင်း တစ်ခုခုကို ယူဆောင်လာလျှင် လက်ခံကြကုန် ဟူ၍ အဓိပ္ပာယ်

ထွက်ပေသည်။ ထို့ပြင် သက်သေထွက်ဆိုမှုနှင့် ပတ်သက်၍ မြောက်များစွာသော အာယသ်တော်များ၊ ဟဒီးစ်တော်များ ရှိပေသည်။ ထိုနည်းလည်းကောင်းပင် သတင်းပေးမှုကို လက်ခံရန်အတွက်လည်း မြောက်များစွာသော အထောက်အထားများရှိပေသည်။

ထို့ကြောင့် ကျွန်ုပ်တို့သည် ဟဒီးစ်တော်များနှင့်ပတ်သက်၍၊ သို့မဟုတ် ဟဒီးစ်စနဒ်ကွင်းဆက်နှင့် ပတ်သက်၍ ဟဒီးစ်ပညာရှင်များ၏ အဆိုကို လက်ခံကြပေသည်။ ထိုသို့ လက်ခံခြင်းသည် သတ်က်လီးဒ်လုပ်ခြင်း မဟုတ်ပေ။ သို့သာမက ရှရီအသ်တရားတော်၏ အမိန့်ဥပဒေနှင့်အညီ ၎င်းတို့၏ သတင်းပေးမှု၊ ဆင့်ဆိုချက်၊ သက်သေထွက်ဆိုချက်များကို လက်ခံခြင်းသာ ဖြစ်သည်။ အကြောင်းမှာ ရှရီအသ်တရားတော်က ယင်းကို လက်ခံရန် အမိန့်ပေးတော်မူထားသည်။ လူတို့၏ အမိန့်ကို လက်ခံရန်အမိန့်ပေးတော်မမူထားပေ။

**ဘာသာပြန်သူ**

**ရှိုင်းခ်မွဖ်သီဖိုင်စွာလ်(ကာစိမီ)**